# الوجيز في الميراث

## အမွေလမ်းညွှန်
## လိုက်နာစေသော

တင်ပြသူ
မွဖ်သီအဗ်ဒွလ်မဂျီးဒ်(မြိတ်)

ကျောင်းသားကန့်သတ်



# 🕮 အမှာစာ

အစ္စလာမ်သာသနာသည် ပြီးပြည့်စုံသောသာသနာဖြစ်ပြီး ၊ အစ္စလာမ့်ဘဝဇင်န်ဒဂီသည်လည်းပြီးပြည့်စုံတဲ့ဘဝဇင်န်ဒဂီဖြစ်ပါသည်။၎င်းဘဝဇင်န်ဒဂီ အတွက် မွေးဖွားချိန်မှစ၍ ကွယ်လွန်သေဆုံးချိန်ထိသာမက ၊ ကွယ်လွန်ပြီးနောက်အထိလည်း အလ္လာဟ်အရှင်မြတ်ရဲ့ အမိန့်များရှိနေပါသည်။ ထိုအထဲမှ အမိန့်တစ်ခုသည် အမွေခွဲဝေခြင်းကဏ္ဍဖြစ်ပါသည်။ အစ္စလာမ်သာသနာတွင် အမွေပညာဟာ ပညာများရဲ့ခေါင်းဆောင် သဖွယ် ဖြစ်ပါသည်။ အဘယ့်ကြောင့်ဆိုသော် တမန်တော်ကြီး ﷺ အမိန့်ရှိခဲ့သည်။

علم الفرائض ဆိုလိုသည်မှာ تَعَلَّمُوا الْفَرائِضَ وَ عَلِّمُوْهَا النَّاسَ لِأَنَّهَا نِصْفُ الْعِلْمِ ပညာရပ်ကိုအသင်တို့ကိုယ်တိုင်လည်းသင်ယူကြပါ။ ပြီးနောက် တစ်ပါးသူများကိုလည်းပို့ချပါ။ အဘယ့်ကြောင့်ဆိုသော် فَرَائِض ပညာသည် ပညာအားလုံး၏ တစ်ဝက်ဖြစ်ကြောင်း မိန့်ခြွေထားပေသည်။ ဤအတွက်ကြောင့်ပင် အရဗီစာသင်ကျောင်းများ၌၎င်း مِيْرَاث ဘာသာရပ်ကို အရေးကြီးသောဘာသာရပ် တစ်ခုအနေဖြင့်ထည့်သွင်းထားပါသည်။ကျောင်းသားကျောင်းသူများမှာ ဤပညာရပ်နှင့်ပက်သတ်ပြီးဥပဒေများနှင့်တွက်ချက်မှုများကိုပိုင်ပိုင်နိုင်နိုင်ဆည်းပူးနိုင်ရန်ဗန္ဒဟ်ကိုယ်တိုင်ဤပညာရပ်ကိုထူးချွန်ချင်စိတ်များဖြစ်ပေါ်ပြီးမိမိကိုယ်တိုင်အပါဝင်ကျောင်းသား၊ကျောင်းသူများအားလုံးပညာရပ်ကိုကျွမ်းကျင်စွာဆည်းပူးနိုင်ရန်အလို့ငှာ၎င်းပညာရပ်၏အဓိကလိုအပ်ချက်ဖြစ်သောကျက်မှတ်စရာဥပဒေများ၊စည်းကမ်းချက်များ၊အခေါ်အဝေါ်များကို سِرَاجِىْ ၏ تَرْتِيْبْ အစီအစဉ်အောက်မှ အတိုချုံးစုစည်းရေးသားခဲ့ပြီး အာလင်မ်သာသနာ့ပညာရှင် ဆရာသခင်များဖြစ်ကြသော حضرت مولانا حاتم صاحب ( اشرف المدارس ) ကျောင်းအုပ်ဆရာကြီး ၊ ကန်ခေါင်းရပ်၊မြိတ်မြို့

مفتی محمد عیاض صاحب أسعدی مظاهری ، مفتی محمد رفیق صاحب قاسمی တို့ကို စီစစ်စေခဲ့ပါသည်။ အကယ်၍ တစ်စုံတစ်ရာအကြံပြုလိုပါကလည်း ကျွန်တော် ဗန္ဒာဟ်အစ်ဒွလ်မဂျီးဒ်အားဆက်သွယ်အကြံပြုနိုင်ပါတယ်။إنشاءالله ဤစာအုပ် ကိုလေ့လာကျက်မှတ်ပါက میراث ပညာရပ်အတွက်အထောက်အကူများစွာရ ရှိမည်ဟုမျှော်လင့်ပါသည်။အလ္လာဟ်အရှင်ကျွန်တော်တို့အားလုံးကို ပြည့်ပြည့် ဝဝ နားလည်သဘောပေါက်နိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။ ( အာမီးန် )

ဗန္ဒဟ် အစ်ဒွလ်မဂျီးဒ် ( ကာရှီဖွိ ) ၊ မြိတ်
ဖုန်းနံပတ် ☏ ၀၉၉၆၆၆၇၇၇၈၃

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

فهرس

بسم الله الرحمن الرحيم

❖ مُقَدِّمَة ❖

**الحمد لله رب العالمين والصلاة والسلام على رسوله الكريم . أمّا بعد: فقد قال النبيﷺ: تعلّموا الفرائض وعلّموها لأنها نصف العلم.**

ဤစာအုပ်ရဲ့ ကျော်ကြားသော အမည်မှာ **سراجي** ဖြစ်ပါသည်။ မူရင်းအမည် မှာ **(الفرائض السراجية)فرائض سجاوندي** ဖြစ်ပါသည်။

**အမေး** ✍ **الفرائض السراجية**ဟုအဘယ်ကြောင့် အမည်ပေးရပါသနည်း။

**အဖြေ** ✍ စာအုပ်ပြုစုသူ၏ဂုဏ်ပုဒ် **لقب** မှာ **سراج الدين** ဖြစ်သောကြောင့် **سراج** ဘက်ကိုဆက်နွယ်ပြီး **الفرائض السراجية** ဟု အမည်ပေးရခြင်းဖြစ်သည်။

**အမေး** ✍ **فرائض سجاوندي** ဟုအဘယ့်ကြောင့်ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ စာအုပ်ပြုစုသူ၏မွေးရပ်ဇာတိမှာ **سجاوند**ဖြစ်သည့်အတွက်ကြောင့် **سجاوند** ဘက်သို့ဆက်နွယ်၍ ဤစာအုပ်၏ဒုတိယအမည်ကို **فرائض سجاوندي** ဟုခေါ်ပါသည်။

**အမေး** ✍ စာအုပ်ပြုသူ ဆရာကြီး၏(မျိုးရိုးအစဉ်အဆက်) **سلسلة نسب** အပြည့်အစုံကိုတင်ပြပေးပါ။

**အဖြေ** ✍ **سراج الدين أبو طاهر محمد بن عبد الرشيد سجاوندي** ဖြစ်ပါသည်။ သို့သော် ဆရာကြီး၏အဖိုးဘက်ကိုဆက်နွယ်၍ **محمد بن عبد الرشيد سجاوندي** ဟုကျော်ကြားပါသည်။

**အမေး** ✍ **علم الفرائض** ၏ဖွင့်ဆိုချက်ကို တင်ပြပါ။

**အဖြေ** ✍ **الفرائض** ဟူသောစာလုံးသည် **فريضة** ၏အများကိန်းဖြစ်သည်။ **فريضة** ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်က လူသားများအပေါ် ပေးအပ်ထားသော တာဝန်ကိုခေါ်ပါသည်။

အရဗီစာပေအရ **فريضة** ၏အဓိပ္ပါယ်မှာ သတ်မှတ်ခြင်းခံထားရသော အရာဖြစ်သည်။ အကြောင်းမှာ မီရာဆ်၌ ထိုက်သင့်သောသူများ၏ဝေစုများသည် သတ်မှတ်ခြင်းခံထားရပေသည်။ ဤအတွက်ကြောင့် ထိုဝေစုများကို **فرائض** ဟုခေါ်ပါသည်။

**အမေး** ✍ ဘာသာရပ်၏(**موضوع** မူတည်ချက်)ကိုဖော်ပြပါ။

**အဖြေ** ✍ **ميت** သေဆုံးသူ၏ကျန်ရှိခဲ့သော ပစ္စည်းဥစ္စာပိုင်ဆိုင်မှုအားလုံးနှင့် သူ ၏သားချင်းများဖြစ်ပါသည်။

**အမေး** ✍ ဤပညာကို သင်ယူရခြင်း၏ရည်ရွယ်ချက်ကိုဖော်ပြပါ။

**အဖြေ** ✍ အမွေရထိုက်သူများကို ထိုက်သင့်မှုရှိသလောက်ပေးခြင်းနှင့် အမွေပစ္စည်းများ ခွဲဝေရာ၌ အမှားအယွင်း မဖြစ်စေရန်သာဖြစ်ပေသည်။

**အမေး** ✍ **علم الفرائض** ၏အကျိုးကျေးဇူးများကို ဖော်ပြပါ။

**အဖြေ** ✍ ဤပညာရပ်သည် အလွန်အရေးပါ၍ အလွန်မွန်မြတ်သောပညာရပ်ဖြစ်ပေသည်။ အရေးပါမှုမှာ အလ္လာဟ်အရှင်မြတ်သည် အခြားသော နမား‌ဇ်၊ ရိုဇဟ် အစရှိသည့်အမိန့်ပညတ်ချက်များကို အကျဉ်းချုံး၍ မိန့်ခွဲထားပြီး၏။ ဤအမိန့်ပညတ်ချက်များ၏အကျယ်တဝန်းတင်ပြချက်ကိုတမန်တော်မြတ် ﷺ

သခင်အား လွှဲပြောင်းအပ်ခဲ့ပေသည်။ သို့သော် ဤ ورا ثت နှင့်ပတ်သက်မှုများကို မိမိကိုယ်တိုင် အကျယ်တဝင့်မိန့်ခြွေထားခဲ့ပေသည်။ ဤသည်ကို ကြည့်ခြင်း အားဖြင့် ထိုပညာရပ်၏အရေးပါမှုကို ခန့်မှန်းနိုင်ပေသည်။ ထို့အပြင် မြောက် မြားစွာသော ဟဒီးဆ်တော်များ၌လည်း ဤပညာရပ်ကို သင်ယူဆည်းပူးကြရန် နိုးဆော်တိုက်တွန်းချက်များရှိနေပေသည်။ ယင်းဟဒီးဆ်တော်များအနက်…

**تعلموا الفرائض وعلمّوها الناس فإنها نصف العلم.**

**علم الفرائض** ကို အသင်တို့ကိုယ်တိုင်လည်းသင်ယူကြပါ။ ပြီးနောက် တစ်ပါးသူများအားလည်းပို့ချပါ။ အဘယ်ကြောင့်ဆိုသော် **الفرائض** ပညာသည် **علم**အားလုံးတို့၏တစ်ဝက်ဖြစ်ကြောင်း မိန့်ခြွေထားပေသည်။

## ❖ فَصْلٌ فِى الحُقُوْقِ بِتَرِكَةِ المَيِّتِ ❖

**အမေး** ✍သေသူကျန်ခဲ့သောပစ္စည်းများအား(ဟနဖီမဇ်ဟဗ်)ဝင်များထံ သုံးစွဲရ မည့်ပုံစံကို တင်ပြပါ။

**အဖြေ** ✍ သေသူ၏ ချန်ရစ်ခဲ့သော ပစ္စည်းများနှင့် ပတ်သက်၍ အရာ(၄)ခု အတွက် သုံးစွဲရန်တာဝန်ရှိပေသည်။

❶ ပထမတာဝန်- သေသူ၏ချန်ရစ်ခဲ့သောပစ္စည်းများမှ (تجهيز) မိုင်ယစ်သ် အတွက် အသုံးစရိတ်နှင့် (تكفين) ကဖန်အတွက်အသုံးစရိတ်တို့အတွက် သုံးစွဲ ခြင်းဖြစ်ပေသည်။

❷ ဒုတိယတာဝန်- ကဖန်နှင့် ဒဖန်ပြုလုပ်ပြီးနောက် ကျန်ရှိပစ္စည်းများ မှ မိုင်ယစ်သ်၏အကြွေးများကို ပေးဆပ်ခြင်း။

❸ တတိယတာဝန်- **تنفيذ وصيت** ဖြစ်ပေသည်။ အကယ်၍ သေသူသည် **حقوق الله** နှင့်ဖြစ်စေ၊ **حقوق العباد** နှင့်ဖြစ်စေ ပြုပိုင်သော ဝဆီယသ်မှာတမ်းမှုပြု ပါက အကြွေးများကို တာဝန်ချပေးဆပ်ပြီးနောက် ကျန်ပစ္စည်းထဲမှ (၃) ပုံ (၁) ပုံ ဖြင့် ဝဆီယသ်အတိုင်းပြုလုပ်ပေးခြင်း။

❹ အထက်ပါတာဝန်(၃)ခုဆောင်ရွက်ပြီးနောက် ကျန်သောပစ္စည်း များကို သေသူ၏အမွေစားအမွေခံတို့အား ရှရီအသ်(ကျမ်းမြတ်ကုရ်အာန်မှ သတ်မှတ်ထားသည့်အတိုင်း)အရ ထိုက်သင့်သောဝေစုအတိုင်း ခွဲဝေပေးခြင်း။

**အမေး** ✍ ထိုတာဝန်(၄)ရပ်ပြုပြီးသည့်နောက် မိုင်ယစ်သ်၏ ချန်ရစ်ခဲ့သော ပစ္စည်းများကို မည်သို့ခွဲဝေရမည်နည်း။

**အဖြေ** ✍ ပထမဦးစွာ ချန်ရစ်ခဲ့သောပစ္စည်းများကို **ذوي الفروض** အားခွဲဝေပေးရမည်။ ထိုသူများကို **أصحاب الفرائض** ဟူ၍လည်းခေါ်ဆိုပါသည်။

**အမေး** ✍ **ذوي الفروض** မည်သူ့ကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **ذوي الفروض** ဆိုသည်မှာ၍သူ့ကိုခေါ်ပါသည်။ ၎င်းသူ၏ဝေစုကို ကုရ်အာန်ကျမ်းမြတ်၊ ဟဒီးဆ်တော်နှင့် အစ်ဂျ်မာအေ့အွမ္မသ်တို့၌ သတ်မှတ်ထား ပေသည်။

**အမေး** ✍ **ذوي الفروض** ၏အမျိုးအစားများကို ဖော်ပြပါ။

**အဖြေ** ✍ ذوي الفروض سبي နှင့် ذوي الفروض نسبي တို့ဖြစ်ပါသည်။

**အမေး** ✍ ذوي الفروض نسبي တွင် မည်သူများပါဝင်ပါသနည်း။

**အဖြေ** ✍ သေသူနှင့် ولايت သွေးသားအရ တော်စပ်သူကိုခေါ်ဆိုပါသည်။ ဥပမာ- အဖေ၊အဖိုး စသည်ဖြင့် …

**အမေး** ✍ ذوي الفروض سبي ဆိုသည်မှာ မည်သူပါနည်း။

**အဖြေ** ✍ သေသူနှင့် نكاح صحيح အရ တော်စပ်သူကိုခေါ်ဆိုပါသည်။

ဥပမာ - ဇနီး ၊ ခင်ပွန်း

**အမေး** ✍ ဖော်ပြပါ ذوي الفروض ကိုခွဲဝေပေးပြီးနောက် ကျန်ရှိပါက မည်သူ့ကို ပေးရမည်နည်း။

**အဖြေ** ✍ عصبة ကိုပေးရမည်။

## ❖ باب العصبات ❖

**အမေး** ✍ عصبة မည်သူ့ကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ عصبة ဆိုသည်မှာ မိုင်ယစ်သ် ကွယ်လွန်ပြီးနောက် ذوي الفروض မှ ကျန်ရှိသော ပစ္စည်း ကို ရယူသောသူကို ခေါ်ပါသည်။

**အမေး** ✍ عصبة ၏အမျိုးအစားများကို ဖော်ပြပါ။

**အဖြေ** ✍ عصبةنسبيّ နှင့် عصبةسببيّ တို့ဖြစ်ပါသည်။

**အမေး** ✍ **عصبةنسبيّ** မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ သေသူနှင့်သွေးသားအရတော်စပ်သူကိုခေါ်ဆိုပါသည်။

ဥပမာ- သား ၊ အဖေ ၊ အကို ၊ အဖေ့ဘက်မှဦးလေးနှင့်၎င်းတို့၏သားသမီးများ

**အမေး** ✍ **عصبةسببيّ** မည်သူ့ကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ သေသူနှင့် **عتاق** (ကျွန်ဘဝမှလွတ်လပ်မှုပြုပေးခြင်း) အရ တော်စပ်သူကို ခေါ်ဆိုပါသည်။

ဥပမာ- **مولي العتاقة** ဆိုလိုသည်မှာ ကျွန်အား သူကောင်းပြုသောသခင်

**အမေး** ✍ **عصبةنسبيّ** ၏အမျိုးအစားများကိုဖော်ပြပါ။

**အဖြေ** ✍ (၃)မျိုးရှိပါသည်။ ❶ **عصبة بنفسه** ❷ **عصبة بغيره** ❸ **عصبة مغ غيره**

**အမေး** ✍ **عصبة بنفسه** မည်သူ့ကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ ထို **مذكر** အမျိုးသားအုပ်စုတိုင်းကိုခေါ်ဆိုပါသည်။ သေသူဘက်သို့ **نسبت**ပြုလုပ်သောအခါ **مؤنث** မိန်းကလေး ကြားခံမပါရှိရပေ။ **عصبة بنفسه** သည် (၄)မျိုးရှိပေသည်။ ❶ သေသူ၏ **فرع** ဥပမာ- သား ၊ အောက်ဆက်အထိ ❷ သေသူ၏ **أصل** ဥပမာ- ဖခင်၊ အဖိုး၊ အထက်အဆက်အထိ

❸၎င်းသေသူ၏ဖခင်ရဲ့ **فرع** ဥပမာ- အစ်ကို

❹ ၎င်းသေသူ၏ အဖိုး၏ **فرع** ဥပမာ- ဦးလေး။

**အမေး** ✍ **عصبه بغيره** မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ ထိုအမျိုးသမီးများကို ခေါ်ဆိုပါသည်။ သူမတို့သည် မိမိတို့၏နောင်တော် များအား အကြောင်းခံ၍ **عصبة** ဖြစ်ပေသည်။ ၎င်းသည် (၄) ဦးရှိပေသည်။ ၎င်းတို့၏ ဝေစုသည် တစ်ဦးတည်းရှိနေချိန်၌ **نصف** ရရှိ၍ တစ်ယောက်ထက် အများရှိပါက **ثلثان** ရရှိပေသည်။၎င်း(၄)ဦးမှာ သမီး၊ မြေးမ၊ အစ်မ ၊ ညီမအရင်း၊ အဖေတူ အမေကွဲညီမ၊ အစ်မ တို့ဖြစ်ပါသည်။

**အမေး** ✍ **عصبة مع غيره** မည်သူ့ကိုခေါ်ပါသနည်း။

**အဖြေ** ✍ ထိုအမျိုးသမီးကိုခေါ်ပါသည်။ သူသည် တခြားတစ်ယောက်နှင့်အတူတွဲ၍ရှိသည်။ သဘောမှာ တစ်ခြား **مؤنث** မိန်းကလေးရှိနေချိန်၌ **عصبة** အဖြစ်ရှိပေသည်။ ဥပမာ- **أخت مع البنت**အစ်မနှင့်အတူသမီး။ဆိုလိုသည်မှာ- သေသူ၏အစ်မ၊ ညီမ (သေသူ၏သမီးရှိနေစဉ်)။

**အမေး** ✍ **عصبة نسبي** မရှိပါက ကျန်ရှိပစ္စည်းကို မည်သူ့အား ပေးရမည်းနည်း။

**အဖြေ** ✍ **عصبة سببي** ကိုပေးရမည်။ ဆိုလိုသည်မှာ **مولاء عتاقه** ကျွန်ကို သူကောင်းပြုသူဖြစ်သည်။ **سبب** ၏အလိုသဘောမှာ အကြောင်းခံ၊ သူကောင်းပြုသူသည်သေသူနှင့် **نسبي** သားချင်းမတော်စပ်ပေ။သို့သော်သူကောင်းပြုလုပ်ခြင်းဟူသော **سبب** နှင့်ပတ်သက်နေပေသည်။ ထို့ကြောင့် **عصبة سببي** ဟုခေါ်ဆိုပါသည်။

**အမေး** ✍ အကယ်၍ မည်သည့် **عصبة** မျှမရှိပါက ကျန်ပစ္စည်းများကို မည်သို့ ပြုလုပ်ရ မည်နည်း။

**အဖြေ** ✍ **ذوي الفروض نسبي** အပေါ် တဖန်ပြန်၍ခွဲရပေမည်။

**အမေး** ✍ **ذوي الفروض نسبي** လည်းမရှိပါက မည်သူ့အား ပေးရမည်နည်း။

**အဖြေ** ✍ **ذوي الأرحام** အားပေးရမည်။

**အမေး** ✍ **ذوي الأرحام** မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ သေသူ၏ထိုဆွေမျိုးများကို ခေါ်ဆိုပါသည်။ သူ၏ဝေစုကို ကုရ်အာန်၊ ဟဒီးဆ် နှင့် အစ်ဂျ်မာဟ်တို့တွင် မဖော်ပြထားပါ။ ၎င်းတို့သည် **عصبات** လည်း မဟုတ်ပေ။ ဥပမာ- ဖူဖီ ၊ ခါလဟ်၊ မာမူ ၊ ဗာန်ကျဟ်၊ နဝါစဟ် တို့ဖြစ်ပါသည်။

**အမေး** ✍ **ذوي الأرحام** လည်းမရှိပါက မည်သူ့အားပေးရမည်နည်း။

**အဖြေ** ✍ **مولى الموالات** ကိုပေးရမည်။

**အမေး** ✍ **مولى الموالات** မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ လူတစ်ယောက်သည် တခြားတစ်ယောက်အား အသင့်ကို ကျွန်တော်၏( **مولى** သခင် အုပ်ထိန်းသူ)ပြုလုပ်သည်။ ကျွန်တော်သည် သင့်အား မိမိ၏ **تثا**ရ၊အမွေးစားအမွေခံပြုလုပ်မည်။အကယ်၍ ကျွန်တော်ဘက်မှ **دیت موجب** ဖြစ်မှုကျူးလွန်မိပါက အသင်သည် ကျွန်တော်ဘက်မှ **دیت** လျော်ကြေးပေး

ရပေမည်။ဤကဲ့သို့ပြောခြင်းသည် **إيجاب** ဖြစ်ပေသည်။တခြားတစ်ယောက်က လက်ခံပါက **عقد موالات** ဖြစ်ပေသည်။ ၎င်းလက်ခံသူသည် **مولى الموالات** ဖြစ်ပေသည်။

**အမေး** ✍ **مولى الموالات** လည်းမရှိပါက မည်သူ့ကိုပေးရမည်နည်း။

**အဖြေ** ✍ **مقرله بالنسب** ကိုပေးရပါမည်။

**အမေး** ✍ **مقر له بالنسب** မရှိပါက မည်သူ့ကိုပေးရမည်နည်း။

**အဖြေ** ✍ **وصية** ပြုလုပ်ခြင်းခံရသူ **موصى له** ကို ကျန်ပစ္စည်းအားလုံးကို ပေးရပါမည်။

**အမေး** ✍ **موصى له** အထဲမှာမည်သူမှမရှိပါက မည်သူ့ကိုပေးရမည်နည်း။

**အဖြေ** ✍ **بيت المال** အစ္စလာမ်၏ဘဏ္ဍာတိုက်ကိုပေးလိုက်ရမည်ဖြစ်သည်။



# ❖ فصل فى الموانع ❖

## အမွေဆက်ခံခြင်းကိုအတားအဆီးဖြစ်စေသောအချက်များအကြောင်း

☞ **المانع** တားဆီးသောသူ ။ ၎င်း၏အများကိန်း **جمع** မှာ **الموانع**

**အမေး** ✍ အမွေဆက်ခံခြင်းကို အတားအဆီးဖြစ်စေသော အချက်များကို ဖော်ပြပါ ။

**အဖြေ** ✍ ❶ **رقّيت** ကျေးကျွန်ဖြစ်ခြင်း ၎င်းကျေးကျွန်ဖြစ်သောပုံစံ၌ **كامل غلام** သို့မဟုတ် **ناقص غلام** အားလုံးပါဝင်ပါသည်။

❷ **قتل** အမွေရှင်ကိုသတ်ခြင်း ၎င်းသတ်ဖြတ်မှုကြောင့် **كفارة واجب** နှင့် ပတ်သက်နေပေသည်။

❸ **اختلاف الدينين** **وارث** နှင့် **مورث** တို့ သာသနာမတူခြင်း၊ ဥပမာ **مسلم** က **كافر** ရဲ့ အမွေစားအမွေခံ **وارث** မဖြစ်ပေ၊ **كافر** က **مسلم** ရဲ့ အမွေစားအမွေခံ **وارث** မဖြစ်ပေ။

❹ **اختلاف الدارين** တိုင်းပြည်နှစ်ခု မတူညီခြင်း။

➯ **حقيقة** မတူညီခြင်းဖြစ်စေ( **حربي . ذمى** ) သို့မဟုတ် **حكما** မတူညီခြင်းဖြစ်စေ၊ ( **مستأمن . ذمى** )သို့မဟုတ်မတူညီသော **دارالحرب** နှစ်ခု၌နေထိုင်သော **كافر**နှစ်ဦးဖြစ်စေ။

➯ ၎င်းတိုင်းပြည်နှစ်ခု မတူညီခြင်းဆိုသည်မှာ တိုင်းပြည်၏အုပ်ချုပ်သူ ကွဲပြားသောကြောင့် အချင်းချင်း၌ငြိမ်းချမ်းမှုမရှိခြင်းကိုခေါ်ဆို ပေသည်။

**ရှင်းလင်းချက်** ☞ အမွေမှ အဟန့်အတားဖြစ်စေသော တစ်ချို့သော အချက်အလက်များလည်းရှိပါသည်။

❶ **مخصوص جهالة** ဆိုလိုသည်မှာ **مورث** နှင့် **وارث**၏သေဆုံးခြင်း၌မည်သူဦးစွာသေဆုံး ၍မည်သူကနောက်မှသေသည်ကို ရှင်းလင်းစွာမသိရှိရပေ။

❷ **وارث** ကိုအတိအကျ မသိရခြင်း၊ ဥပမာ(ကလေးနှစ်ယောက်သည် အမျိုးသမီးတစ်ယောက်ထံမှနို့စို့၍ **رضاعًا** တော်ဆက်ပြီးနောက်ကလေး တစ်ယောက်မှာ **نسبًا** တော်ဆက်သည်။ ထိုအမျိုးသမီးသေဆုံးသွားချိန်၌ မည်သည့် ကလေးက **رضاعًا** တော်စပ်ပြီး မည်သည့်ကလေးက **نسبًا** တော်စပ်သည် ကို မသိလိုက်ရပေ။ ထို့ကြောင့် **نسبًا** တော်စပ်သော ကလေး သည် အမွေမှလက်မဲ့ဖြစ်မည်။

❸ **ارتداد** အကယ်၍ **وارث** သည်ဘာသာပြောင်းသွားပါက အမွေမှလက်မဲ့ ဖြစ်မည်။ သို့သော် အမျိုးသမီးတစ်ယောက်သည် **مرتد** ဖြစ်သွားပါက **مسلم** သည် ၎င်းသူမ၏ **وارث** ဖြစ်မည်။

❹ **نبوّت** ဖြစ်ခြင်း။ ဆိုလိုသည်မှာ နဗီတမန်တော်များသည် **وارث** လည်းမဖြစ်နိုင်သလို **مورث** လည်းမဖြစ်ပါ။

❺ **لعان** ပြုလုပ်ထားခြင်း။

**အမေး** ✍ ကျေးကျွန်သည် အဘယ့်ကြောင့်အမွေမှ လက်မဲ့ဖြစ်ရပါသနည်း။

**အဖြေ** ✍ ကျေးကျွန်သည် မိမိပစ္စည်းအား ပိုင်ဆိုင်သူမဟုတ်ပေ။ သူ့ပစ္စည်းအားလုံး၏ပိုင်ရှင်သည်၎င်း၏သခင်ဖြစ်ပေသည်။ဤအတွက်ကြောင့်ကျွန်အားအမွေပေးခြင်းသည်သေသူနှင့်သားချင်းမတော်စပ်သောသူ၏သခင်အား အမွေပေးခြင်းဖြစ်ပေသည်။ သေသူနှင့် သားချင်းမတော်စပ်သူကို အကြောင်းတစ်စုံတစ်ရာမရှိဘဲ အမွေပေးခြင်းသည် ပညာရှင်များ တညီတညွတ်ထဲ အဆိုအရ မပြုပိုင်ပေ။ ထို့အတွက်ကြောင့် ကျေးကျွန်သည် အမွေမရထိုက်ပေ။

**အမေး** ✍ **قتل** အမျိုးအစားဘယ်နှစ်မျိုးရှိပါသလဲ ။ ၎င်းတို့ကိုဖေါ်ပြပါ။

**အဖြေ** ✍ **قتل** ၏အမျိုးအစား (၅) မျိုးရှိပါသည်။

❶ **قتل عمد** လူတစ်ဦးကို တမင်ရည်ရွယ်၍သတ်ခြင်း။

❷ **شبه عمد** တမင်ရည်ရွယ်၍သတ်ခြင်းမျိုးနှင့်ဆင်တူသောပုံစံဖြင့်သတ်ခြင်း။

❸ **قتل خطأ** မှားယွင်း၍သတ်ခြင်း။

❹ **شبه خطأ** မှားယွင်း၍သတ်ခြင်းမျိုးနှင့်ဆင်တူသောပုံစံဖြင့်သတ်ခြင်း။

❺ **قتل بالسبب** အကြောင်းခံတစ်ခုခုဖြင့်သတ်ခြင်း။

**အမေး** ✍ **اختلاف دينين**၊ သည်အဘယ့်အတွက်ကြောင့်အမွေမှလက်မဲ့ဖြစ်ရပါသနည်း။

**အဖြေ** ✍ တမန်တော်မြတ် ﷺ ကအမိန့်ရှိသည်မှာ ……

**لايرث المسلم الكافر ولاالكافر المسلم (البخاري)**

အလိုသဘောမှာ ☞ မွတ်စ်လင်မ်သည် ကာဖိရ်၏အမွေစားအမွေခံမဖြစ်ပေ။ ကာဖိရ်သည် မွတ်စ်လင်မ်၏ အမွေစားအမွေခံမဖြစ်ပေ။

**အမေး** ✍ **اختلاف دارين** ကိုနားလည်ရန်မှတ်သားရမည့်အခေါ်အဝေါ်များကို တင်ပြပါ။

**အဖြေ** ✍

➷ **حربي** ဆိုသည်မှာ ကာဖိရ်နိုင်ငံ၌အမြဲနေထိုင်သော ကာဖိရ် ကိုခေါ် ပါသည်။

➷**ذمي**ဆိုသည်မှာအစ္စလာမ့်နိုင်ငံ၌အခွန်ပေးနေထိုင်သောကာဖိရ်ကိုခေါ်သည်

➷ **مستأمن** ဆိုသည်မှာ အစ္စလာမ့်နိုင်ငံ၌ ဗီဇာယူ၍ လာရောက်နေထိုင်သော ကာဖိရ်ကို ခေါ်သည်။

➷ **اختلاف دارين حقيقةً** ဆိုသည်မှာ **حربي** နှင့် **ذمي** ၏ကြား၌တိုင်းပြည်သည် **حقيقةً** မတူပေ။သီးခြားစီဖြစ်သည်။ အကြောင်းမှာ **حربي** သည်ကာဖိရ်နိုင်ငံ၌ နေထိုင်သောကာဖိရ်ဖြစ်၍ **ذمي** သည်အစ္စလာမ့်နိုင်ငံ၌အခွန်ပေး၍နေထိုင်နေ သောကာဖိရ်ဖြစ်ပေသည်။သို့ရှိရာနှစ်ဦးစလုံးသည်တစ်ဦးဦး၏အမွေမထိုက်ပေ

➷ **اختلاف دارين حكمًا** ဆိုသည်မှာ **ذمي** နှင့် **مسْتَأمن** တို့နှစ်ဦးစလုံးသည် ယေဘုယျအားဖြင့် အစ္စလာမ့်နိုင်ငံတစ်ခု တည်း၌နေထိုင်သူများဖြစ်ပေသည်။ သို့သော်နေထိုင်နေသောပုံစံမှာကွာခြားနေပေသည်။အကြောင်းမှာ **ذمي** သည်

အစ္စလာမ့်နိုင်ငံ၌အခွန်ပေးဆောင်၍အမြဲနေထိုင်သောကြောင့်အစ္စလာမ့်ဥပဒေနှင့်အညီနိုင်ငံသားဖြစ်၍ **مُستأمن** မှာအစ္စလာမ့်နိုင်ငံ၌ အခွန်ပေး၍ ခဏလာလည်သောဧည့်သည်အဖြစ်သာနေထိုင်ခွင့်ရှိပေသည်။

## ❖ بابُ معرفةِ الفُروضِ ومُستحقِّيها ❖

## သတ်မှတ်ထားသောဝေစုများနှင့် ၎င်းဝေစုများကိုရထိုက်သောသူများအကြောင်း

**အမေး** ✍ ကျမ်းတော်မြတ်ကုရ်အာန်တွင် သတ်မှတ်ပေးထားသောဝေစုများသည် အရေအတွက်မည်မျှရှိပါသနည်း။

**အဖြေ** ✍ (၆) ခုရှိပါသည်။ **نِصْف . رُبُع . ثُمُنْ . ثُلُث . ثُلُثَان . سُدُس** တစ်ဝက်၊ လေးပုံတစ်ပုံ၊ ရှစ်ပုံတစ်ပုံ၊ သုံးပုံတစ်ပုံ၊ သုံးပုံနှစ်ပုံ၊ ခြောက်ပုံတစ်ပုံ။ ၎င်းဝေစု (၆) ပုံသည် **التَّضْعِيف و التَّنْصِيف** ဆတိုး၊ဆလျော့ ပုံစံဖြင့်ရှိနေသည်။

**အမေး** ✍ **فروض مقدَّرة** ၏အမျိုးအစားများကိုဖော်ပြပါ။

**အဖြေ** ✍ (၂) မျိုးရှိပါသည်။ ပထမအမျိုးအစားများမှာ ၊ **نصف . ربع . ثمن** ဒုတိယအမျိုးအစားများမှာ **ثلث . ثلثان . سدس**

**အမေး** ✍ **تضعيف** နှင့် **تنصيف** ၏ အလိုသဘောကိုရှင်းပြပါ။

**အဖြေ** ✍ **تضعيف** ၏ အလိုသဘောမှာ (၂)ဆတိုးဖြစ်သည်။ ဆိုလိုသည်မှာ ဖော်ပြပါ ဝေစု အစမှအဆုံးထိ (၂)ဆတိုးပုံစံဖြင့်တွေ့ရှိရမည်။

***تنصيف*** ၏ အလိုသဘောမှာ (၂) ဆလျှော့ ဖြစ်သည်။ ဆိုလိုသည်မှာ ဖော်ပြပါ ဝေစုများကို အဆုံး မှ အစ ထိ ကြည့်ပါက (၂)ဆလျှော့ပုံစံဖြင့်တွေ့ရှိရမည်။ ဝေစုတစ်ခုတိုင်းတစ်ခုတိုင်းသည်နောက်တစ်ခု၏တစ်ဝက်လျှော့ဖြစ်ပေသည်။ ပမာအားဖြင့်ရှစ်ပုံတစ်ပုံသည်လေးပုံတစ်ပုံ၏တစ်ဝက် ၊ ထိုလေးပုံတစ်ပုံ သည် နှစ်ပုံတစ်ပုံ၏ တစ်ဝက်ဖြစ်ပေသည်။ ဒုတိယအမျိုးအစားမှ ခြောက်ပုံတစ်ပုံ သည်သုံးပုံတစ်ပုံ၏တစ်ဝက်၊ ထိုသုံးပုံတစ်ပုံသည် သုံးပုံနှစ်ပုံ၏တစ်ဝက် ဖြစ် ပေသည်။ ၎င်းကို ***تنصيف*** ဟုခေါ်ဆိုပါသည်။

**အမေး** ✍ ကျမ်းတော်မြတ်ကုရ်အာန်က သတ်မှတ်ထားသော ဝေစုရှင်များ ဘယ်နှစ်ဦးရှိပါသလဲ။

**အဖြေ** ✍ (၁၂) ဦးရှိပါသည်။ (၄) ဦးမှာ အမျိုးသားများဖြစ်ပြီး ကျန် (၈) ဦးမှာ အမျိုးသမီးများဖြစ်ကြပါသည်။

**အမေး** ✍ အမျိုးသား (၄) ဦးတို့ကိုဖော်ပြပါ။

**အဖြေ** ✍ ❶ ဖခင် ❷ အဖိုး (ဖခင်၏ဖခင် … ၎င်း၏အထက်အဆက်ထိ)

❸ မိတူဖကွဲမောင်နှမများ ❹ ခင်ပွန်း

**အမေး** ✍ အမျိုးသမီး (၈) ဦးတို့ကို ဖော်ပြပါ။

**အဖြေ** ✍ ❶ သမီး ❷ ဇနီး ❸ မြေးမ

(သား၏သမီး၊၎င်းသူ၏အောက်အဆက်ထိ အလိုသဘောမှာ မြစ်မ )

❹ မိတူဖတူအစ်မ(သို့)ညီမ ❺ ဖတူမိကွဲအစ်မ(သို့) ညီမ

❻ မိတူဖကွဲအစ်မ (သို့)ညီမ ❼ မိခင်

❽ အဖွား ( မိခင်နှင့်ဖခင်ဘက်မှတော်စပ်သောအဖွားအရင်းများ ) ၎င်းအဖွားအရင်းများနှင့်သေသူနှင့်တော်စပ်ပုံတွင် **جدّفاسد** မဝင်စေရ ။

**အမေး** ✍ ဖခင်၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ ဖခင်၏ **حالت** (၃) ခု ရှိပေသည်။

**فرضٌ مُطلقٌ/فرضٌ مع التعْصِيب/تعْصِيبٌ محْضٌ**

❶ သေသူ၏ဖခင်နှင့်အတူ သေသူ၏ သား (သား၊မြေး၊မြစ်၊တီ၊တွတ် အောက်အဆက်ထိတစ်ယောက်ယောက်) ရှိပါက ဖခင်သည် ခြောက်ပုံတစ်ပုံ ရရှိပေမည်။၎င်းကို **فرض مطلق** ဟုခေါ်ဆိုပါသည်။

❷ သေသူ၏ဖခင်နှင့် အတူ သမီးမိန်းကလေး(သမီး၊မြေးမ၊မြစ်မ အောက် အဆက် ထိတစ်ယောက်ယောက်) ရှိပါကဖခင်သည်ခြောက်ပုံတစ်ပုံရရှိခြင်း နှင့်အတူ **عصبة** လည်း ဖြစ်ပေမည်။ဤကို **فرض مع التعصيب** ဟုခေါ်ဆိုပေသည်။

❸ သေသူ၏သား ၊ သမီး ၊ မြေး ၊ မြစ် ၊ တီ ၊ တွတ် (အထက်တွင်ဖော်ပြပါသူများ) မရှိပါက ၊ ဖခင်တစ်ဦးတည်းသာရှိသော ပုံစံတွင် ကျန်ပစ္စည်းအားလုံးကိုလည်းကောင်း ၊ အခြားသော **أصحاب الفرائض** များနှင့်အတူ ရှိသောပုံစံတွင် ၎င်းတို့ကိုပေးပြီးနောက်ကျန်ပစ္စည်းအားလုံးကိုရရှိပေမည်။ ဤ **حالت** ကို **تعصيب محض** ဟုခေါ်ဆိုပေသည်။

**အမေး** ✍ **جدّصحيح** ၏ **حالت** များကိုဖော်ပြပါ။

**အဖြေ** ✍ (၄)ခုရှိပါသည်။ **محروم/فرض مطلق/فرض مع التعصيب/تعصيب محض**

❶ အကယ်၍သေသူ၏ ဖခင်နှင့်အတူအဖိုးရှိပါက အဖိုးသည် အမွေလက်မဲ့ဖြစ်သွားပေသည်။ အကြောင်းမှာ သေသူ၏ဖခင်သည်သေသူနှင့် သားချင်းတော်ဆပ်မှု၌အဖိုးထက်သာပို၍နီးကပ်ပေသည်။၎င်းနောက်အမွေ၏ ဥပဒေမှာ အနီးဆုံးသူရှိချိန်၌အဝေးဆုံးသူသည်လက်မဲ့ဖြစ်သွားပေမည်။ထိုနည်းတူစွာပင် အဖိုးရှိနေလျှင် ထိုအဖိုး၏ဖခင်သည် အမွေမှ လက်မဲ့ဖြစ် သွားပေမည်။

❷ အကယ်၍ဖခင်မရှိသောပုံစံ၌အဖိုးနှင့်အတူ သေသူ၏သား၊ မြေး၊ တီ၊ တွတ်ယောကျ်ားလေးများ အောက်အဆက်ထိရှိပါက အဖိုးသည် ခြောက်ပုံတစ်ပုံ ရရှိပေမည်။

❸ အကယ်၍ ဖခင်မရှိသောပုံစံ၌ အဖိုးနှင့်အတူ သေသူ၏သမီးများ အောက်အဆက်ထိရှိပါက အဖိုးသည် ခြောက်ပုံတစ်ပုံနှင့်အတူ **عصبة** လည်းရရှိပေမည်။

❹ အကယ်၍သေသူ၏အဖိုးနှင့်အတူ သေသူ၏ သား၊သမီး တယောက်မျှမရှိပါက အဖိုးသည် **عصبة محض** ဖြစ်ပေမည်။

➷ တစ်ဦးတည်းရှိနေလျှင် သေသူ၏ကျန်ပစ္စည်းများအားလုံးကို ရရှိပြီး တခြားသော **أصحاب الفرائض** များနှင့်အတူရှိပါက၎င်းတို့၏ဝေစုခွဲဝေပေးပြီး ကျန်ပစ္စည်းများအားလုံး ကိုရရှိပေမည်။

**မှတ်ချက်** ☛ (၄) ခုသော မစာအိလ်များ၌ ဖခင်နှင့်အဖိုး တို့၏ ခြားနားချက်ရှိပေသည်။ ၎င်းကိုရှေ့မှာတင်ပြပါမည်။

**အမေး** ✍ အမေတူအဖေကွဲညီအစ်ကိုမောင်နှမများ၏ **حالت** များကိုတင်ပြပါ

**အဖြေ** ✍ (၃) ခုရှိပါသည်။ **سدس** / **ثلث** / **سقوط**

❶ မိတူဖကွဲညီအစ်ကိုမောင်နှမ တစ်ဦးသာရှိပါက ခြောက်ပုံတစ်ပုံရရှိပေမည်။

❷ မိတူဖကွဲညီအစ်ကိုမောင်နှမ နှစ်ဦး (သို့) နှစ်ဦးထက်ပို၍ရှိပါက သုံးပုံ တစ်ပုံ ရရှိပေမည်။

**မှတ်ချက်** ☛ ဤနေရာ၌သတိထားရန်လိုအပ်သည်မှာ ……

မိတူဖကွဲအစ်ကို၊အစ်မ၊ညီမတို့ကို ခွဲဝေပေးရာတွင် တန်းတူခွဲဝေပေးရမည်။ မည်သူ့ကိုမျှ ထပ်ဆောင်းသာပိုမပေးရ။ ဤနေရာတွင် **للذّكرمثل حظّ الأنثيين** ၏ဥပဒေ နှင့် မကိုက်ညီပေ။

❸ သေသူ၏သားသမီးများ(အောက်အဆက်ထိ)နှင့်သေသူ၏ဖခင်၊အဖိုးမည်သူ ပင်ရှိစေကာမူပညာရှင်အားလုံးတို့၏ထံတွင်မိတူဖကွဲမောင်နှမများသည် အမွေမှလက်မဲ့ဖြစ်သွားပေမည်။

**အမေး** ✍ ခင်ပွန်း၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ (၂) ခုရှိပါသည်။ **ربع** / **نصف**

❶ သေသူ၏ သားသမီးများ (အောက်အဆက်ထိ) တစ်ဦးတစ်ယောက်မှ မရှိပါက ခင်ပွန်းသည် သေသူ၏ကျန်ပစ္စည်းအားလုံးထဲမှ တစ်ဝက်ရပေမည်။

❷ အထက်ဖော်ပြပါသူများထဲမှ တစ်ဦးဦးရှိပါက ခင်ပွန်းသည် လေးပုံတစ်ပုံ ရပေမည်။



## ❖ فَصْلٌ فِىْ النِّسَاءِ ❖

**အမေး** ✍ ဇနီး ၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ (၂) ခုရှိပါသည်။ **ربع / ثمن**

❶ သေသူ၏ သားသမီးများ ( အောက်အဆက်ထိ ) တစ်ဦးတစ်ယောက်မှ မရှိပါက ဇနီးသည် သေသူ၏ကျန်းပစ္စည်းမှ လေးပုံတစ်ပုံ ရရှိပေမည်။

❷ အထက်ဖော်ပြပါသူများ တစ်ဦးတစ်ယောက်ရှိပါက ရှစ်ပုံတစ်ပုံ ရရှိ ပေမည်။

**အမေး** ✍ သမီးအရင်း ၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ (၃) ခုရှိပါသည်။ **عصبة/ثلثان/نصف**

❶ သမီးတစ်ဦးတည်းရှိပါက သေသူ၏ကျန်ပစ္စည်းမှ တစ်ဝက်ရရှိပေမည်။

❷ သမီးနှစ်ယောက် (သို့) နှစ်ယောက်ထက်သာပို ရှိပါက ထိုသူမများသည် သုံးပုံနှစ်ပုံ ကို တန်းတူခွဲဝေ ရရှိပေမည်။

❸ သမီး၊သမီးများနှင့်အတူ သား၊သားများ ရှိပါက ထိုသားသည် ၎င်းသူမများ ကို **عصبة** ဖြစ်စေပြီးနောက် ကျန်ရှိပစ္စည်းများကို သူတို့အားလုံးတွင် သား တစ်ယောက် ကို သမီးနှစ်ဦး၏ဝေစုနှင့်အညီ ခွဲဝေရရှိပေမည်။

**အမေး** ✍ မြေးမများ၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ (၆) ခုရှိပါသည်။ **سقوط/عصبة/محروم/سدس/ثلثان/نصف**

❶ မြေးမတစ်ဦးတည်းရှိပါက သေသူ၏ကျန်ပစ္စည်းမှတစ်ဝက်ရရှိပေမည်။

❷ မြေးမနှစ်ယောက်(သို့) နှစ်ယောက်ထက်ပိုရှိပါက သုံးပုံနှစ်ပုံ ရရှိပေမည်။ ၎င်းသုံးပုံနှစ်ပုံကို မြေးမများတွင် အညီအမျှခွဲဝေရပေမည်။

❸ မြေးမ ၊ မြေးမများ နှင့်အတူ သမီးတစ်ဦးရှိပါက မြေးမ ၊ မြေးမများသည် ခြောက်ပုံတစ်ပုံရရှိပေမည်။ သို့မှသာ သမီးမိန်းကလေးများ၏ ဝေစု သုံးပုံနှစ်ပုံ အပြည့်အဝ ဖြစ်သွားပေမည်။ ၎င်းကို **سُدُس تَكْملةً للثُّلُثَيْن** ဟုခေါ်ဆိုပါသည်။

**အလိုသဘောမှာ** ☞ ခြောက်ပုံတစ်ပုံနှင့်နှစ်ပုံတစ်ပုံပေါင်းပါကသုံးပုံနှစ်ပုံရရှိပေမည်။ အစ္စလာမ့်အမွေဆိုင်ရာဥပဒေတွင် အမျိုးသမီးများကို သုံးပုံနှစ်ပုံထက်သာပိုခွဲဝေပေးခြင်းမရှိသောကြောင့်အမျိုးသမီးများ၏အများဆုံး အမွေရပိုင်ခွင့်သည် သုံးပုံနှစ်ပုံသာလျှင်ဖြစ်ပေသည်။ သုံးပုံနှစ်ပုံ ပြည့်သွားရန် မြေးမများကို ခြောက်ပုံတစ်ပုံပေးရခြင်းဖြစ်သည်။

❹ မြေးမ၊မြေးမများနှင့်အတူ သမီးနှစ်ယောက်(သို့) နှစ်ယောက်ထက်သာပိုရှိပါက မြေးမ၊မြေးမများသည် အမွေမှ လက်မဲ့ဖြစ်သွားပေမည်။ အကြောင်းမှာ သမီးသည် နှစ်ယောက်၊နှစ်ယောက်ထက်သာပို ရှိနေသည်ဖြစ်ရာ အမွေထဲမှ သုံးပုံနှစ်ပုံ ရရှိသွားပေသည်။သို့ရှိရာ အမျိုးသမီးများ၏အများဆုံးအမွေရပိုင်ခွင့် ပြည့်သွားသောကြောင့်ဖြစ်ပေသည်။

❺ မြေးမ၊မြေးမများနှင့်အတူ သေသူ၏ မြေးယောကျ်ားလေးအောက်အဆက်ထဲမှတစ်ယောက်ယောက်ရှိလာပါကယခင်လက်မဲ့ဖြစ်သွားသောမြေးမ၊ မြေးမများသည်ထိုမြေးနှင့်အတူ **عصبةبالغير** ဖြစ်သွားပေမည်။ **ذوی الفروض** ကိုပေးပြီးနောက် ကျန်ရှိပစ္စည်းသည် ထိုသူ ၊ ထိုသူမများ ရရှိပေမည်။ ၎င်းကျန်ရှိပစ္စည်းကို ယောကျ်ားလေးနှစ်ပုံ၊မိန်းကလေးတစ်ပုံ ခွဲယူရမည်။

❻ မြေးမ ၊ မြေးမများနှင့်အတူ သေသူ၏ သားယောကျ်ားလေးရှိပါက မြေးမ၊ ၎င်းမြေးယောကျ်ားလေးအားလုံးသည်အမွေမှလက်မဲ့ဖြစ်သွားမည်။ အကြောင်းမှာ သေသူ၏သားသည် သေသူနှင့် သာပိုနီးစပ်သောကြောင့်ဖြစ်သည်။ ထိုနည်းတူစွာ မြစ်မနှင့်အတူ မြေးရှိပါက မြစ်၊မြစ်မ အားလုံး အမွေမှ လက်မဲ့ဖြစ်သွားပေမည်။အကြောင်းမှာမြေးသည်သေသူနှင့်တော်စပ်ရာတွင် သာပို၍နီးစပ်ပေသည်။

**အမေး** ✍ အစ်မ၊ညီမ အရင်း၏ **حالت** များကိုဖော်ပြပါ။

**အဖြေ** ✍ (၅)ခုရှိပါသည်။ **نصف/ثلثان/عصبة/عصبةمع الغير/سقوط**

❶ အစ်မ၊ညီမ တစ်ဦးတည်းရှိပါက အမွေ တစ်ဝက်ရရှိပေမည်။

❷ အစ်မ၊ညီမ နှစ်ဦး(သို့) နှစ်ဦးထက်သာပိုရှိပါက အစ်မ၊ညီမ သည် သုံးပုံနှစ်ပုံ ရရှိပေမည်။

❸ အစ်မ၊ညီမ များနှင့်အတူ အစ်ကို၊မောင် အရင်း တစ်ဦးတစ်ယောက်ရှိပါက အစ်မ၊ညီမ အရင်းများသည် **عصبة** ဖြစ်ပေသည်။ အကြောင်းမှာ သေသူနှင့် သားချင်းတော်စပ်မှု၌ နှစ်ဦးစလုံးသည် တန်းတူဖြစ်ပေသည်။ ၎င်းယောကျ်ားလေး အစ်ကို၊မောင် တစ်ဦးသည် ညီမ၊အစ်မ နှစ်ယောက်၏ ဝေစုနှင့်အညီ ရရှိပေမည်။ **{ للذّكرِ مِثْل حظّ الأنْثَيَين }**

❹ အစ်မ၊ညီမ အရင်းများနှင့်အတူ သေသူ၏ သမီး၊မြေးမ များတို့ထဲမှ တစ်ဦးတစ်ယောက်ရှိပါက အစ်မ၊ညီမ အရင်းများသည် သမီး၊မြေးမတို့ကို ဝေစုပေးပြီးနောက် ကျန်ရှိပစ္စည်းများရရှိပေမည်။၎င်းကို **عصبة مع الغير** ဟု ခေါ်ဆိုပါသည်။

❺ အစ်မ၊ညီမ အရင်း၊အစ်ကို၊ညီ၊မောင်အရင်းတို့သည် သေသူ၏ သား၊မြေး၊ (အောက်အဆက်ထိ) ဖခင်၊ အဖိုး (အထက်အဆက်ထိ) ရှိပါက အမွေမှ လက်မဲ့ ဖြစ်ပေမည်။

**အမေး** ✍ ဖတူမိကွဲ အစ်မ၊ညီမ များ၏ **حالت** များကိုဖော်ပြပါ။

**အဖြေ** ✍ (၇) ရှိပါသည်။(၅)ခုသည် အစ်မ၊ညီမအရင်း၏ **حالت** အတိုင်းပင် ဖြစ်သည်

❶ အစ်မ၊ညီမ အရင်းမရှိဘဲ ဖတူမိကွဲ အစ်မ၊ညီမ တစ်ဦးတည်းရှိပါက ထိုသူမသည် အမွေမှ တစ်ဝက်ရရှိပေမည်။

❷ အစ်မ၊ညီမ အရင်း မရှိဘဲ ဖတူမိကွဲ အစ်မ၊ညီမ နှစ်ဦး (သို့) နှစ်ဦးထက်သာ ပိုရှိပါက ထိုသူမများသည် အမွေမှ သုံးပုံနှစ်ပုံ ရရှိပေမည်။

❸ ဖတူမိကွဲ အစ်မ၊ညီမ များသည် အစ်မ၊ညီမအရင်းတစ်ယောက်နှင့်အတူတွဲ ရှိပါကထိုသူမများသည်ခြောက်ပုံတစ်ပုံရရှိပေသည်။ **سُدُس تَكْملةً للثُّلُثَين** အရ

**အလိုသဘောမှာ** ... ခြောက်ပုံတစ်ပုံနှင့် နှစ်ပုံတစ်ပုံ ပေါင်းပါက သုံးပုံနှစ်ပုံရရှိပေမည်။အစ္စလာမ့်အမွေဆိုင်ရာဥပဒေတွင်အမျိုးသမီးများကို သုံးပုံနှစ်ပုံ ထက်သာပိုခွဲဝေပေးခြင်းမရှိသောကြောင့်အမျိုးသမီးများ၏အများဆုံးအမွေ ရပိုင်ခွင့်သည်သုံးပုံနှစ်ပုံသာလျှင်ဖြစ်ပေသည်။ သုံးပုံနှစ်ပုံပြည့်သွားရန် ဖတူမိကွဲညီမ၊ အစ်မများကို ခြောက်ပုံတစ်ပုံပေးရခြင်းဖြစ်သည်။

❹ ဖတူမိကွဲအစ်မ၊ညီမများနှင့်အတူ အစ်မ၊ညီမအရင်း နှစ်ဦး(သို့) နှစ်ဦးထက်သာပိုရှိပါက ထိုသူမများသည် အမွေမှလက်မဲ့ဖြစ်သွားပေမည်။ အကြောင်းမှာ အစ်မ၊ညီမ အရင်း သည်နှစ်ယောက်၊နှစ်ယောက်ထက်သာပိုရှိနေသည် ဖြစ်ရာ

အမွေထဲမှ သုံးပုံနှစ်ပုံ ရရှိသွားပေသည်။ သို့ရှိရာအမျိုးသမီးများ၏ အများဆုံး အမွေရပိုင်ခွင့်ပြည့်သွားသောကြောင့်ဖြစ်ပေသည်။

❺ ဖတူမိကွဲ အစ်မ၊ညီမများနှင့်အတူ ဖတူမိကွဲ အစ်ကို၊မောင် တစ်ဦးရှိပါက ထိုသူမများသည်အစ်ကို၊မောင်နှင့်အတူ **عصبةبالغير** ဖြစ်သွားပေမည်။ ၎င်းတို့သည် **ذوي الفروض** များကို ခွဲဝေပေးပြီးနောက် ကျန်ပစ္စည်းများ အားလုံး ခွဲဝေရရှိပေမည်။ ၎င်းတို့ အချင်းချင်းခွဲယူရာတွင် ယောကျ်ားလေးကို နှစ်ဆ ၊ မိန်းကလေးကို တစ်ဆ ပေးရမည်။ **للذكر مثل حظّ الأنثيين** အရ

❻ ဖတူမိကွဲအစ်မ၊ညီမများနှင့်အတူသေသူ၏ သမီး၊မြေး (အောက်အဆက်ထိ) တစ်ဦးတစ်ယောက်ယောက်ရှိပါကထိုသူမများသည် **عصبةمع الغير** ဖြစ်မည်။

❼ ဖတူမိကွဲအစ်မ၊ညီမများသည် သေသူ၏ သား ၊ မြေး ၊ မြစ် အောက်အဆက် ထိသို့မဟုတ်သေသူ၏ဖခင်ရှိပါကအမွေမှလက်မဲ့ဖြစ်သွားပေမည်။ (အိုလမာအားလုံးတညီတညွတ်အဆိုဖြစ်သည်)

သေသူ၏အဖိုး(အပေါ်အဆက်ထိ)တစ်ယောက်ယောက်ရှိခဲ့လျှင်လည်း ထိုသူမ များသည်အမွေမှ လက်မဲ့ဖြစ်သွားပေမည်။ ( အေမာမ်အဗူဟနီဖွာ ﵁ ၏အဆို ဖြစ်သည်။ ) ဤအဆိုအပေါ် ဓမ္မသတ်ဆုံးဖြတ်ချက် **فتوى** ရှိသည်။

**အမေး** ✍ မိခင် ၏ **حالت** များကို ဖော်ပြပါ။

**အဖြေ** ✍ (၃) ခု ရှိသည်။ **سدس / ثلث كل / ثلث ما بقى**

❶ မိခင်နှင့်အတူ သေသူ၏ သား ၊ သမီး ၊ မြေး ၊ မြေးမ ၊ မြစ် ၊ မြစ်မ (အောက်အဆက်ထိ) တစ်ဦးတစ်ယောက်ယောက်ရှိပါက (သို့) သေသူ၏

ညီအစ်ကိုမောင်နှမ (၃) မျိုးထဲမှ (ဖတူမိတူ၊ဖတူမိကွဲ၊မိတူဖကွဲ) နှစ်ဦး ၊ နှစ်ဦး ထက်အများရှိပါက မိခင်သည် ခြောက်ပုံတစ်ပုံ ရရှိပေမည်။

❷ မိခင်နှင့်အတူ အထက်ဖေါ်ပြပါသူများ ရှိခဲ့ပါက မိခင်သည် သေသူ၏ ကျန် ပစ္စည်း အားလုံးထဲမှ **ثلث كل** သုံးပုံတစ်ပုံ အပြည့်ရရှိပေမည်။

❸ မိခင်နှင့် အတူ သေသူ၏ ဖခင်နှင့် သေသူ၏ ခင်ပွန်း ၊ ဇနီး တစ်ယောက် ယောက်ကျန်ရှိပါကမိခင်သည်ဇနီး(သို့)ခင်ပွန်း၏ဝေစုကိုပေးပြီးနောက် ကျန်ရှိ ပစ္စည်းများထဲမှ သုံးပုံတစ်ပုံ **ثلث مابقى** ကိုရရှိပေမည်။

**အမေး** ✍ ***جدّةصحيحة*** အဖွား ၏ **حالت** များကို ဖေါ်ပြပါ။

**အဖြေ** ✍ (၂) ခု ရှိပါသည်။ ***سدس / سقوط***

❶ အဖွားသည် ခြောက်ပုံတစ်ပုံရရှိပေမည်။

ဖခင်ဘက်မှတော်စပ်သည်ဖြစ်စေ၊မိခင်ဘက်မှတော်စပ်သည်ဖြစ်စေ၊ တစ်ဦး တည်းဖြစ်စေ၊ တစ်ဦးထက်များသည်ဖြစ်စေ ။ သို့သော် **فاسدة** မဖြစ်ရန် အ ရေးကြီးပေသည်။ သို့သာမက ***صحيحة*** ဖြစ်ရမည်။ အဆင့်အတန်းတွင်တူညီ ရမည်။ အလိုသဘောမှာ … အဖွားတစ်ဦးမကရှိခဲ့ပါက ထိုအဖွားအားလုံးသည် သေသူနှင့်တော်စပ်ပုံ ကွာဟမှု တူညီရမည်။အဖွားတစ်ယောက်သည် သေသူ နှင့် တော်စပ်သည့်အခါ တစ်ယောက်ပဲခြားခဲ့လျှင် အခြားတစ်ယောက် သည် လည်း တော်စပ်သည့်အခါ တစ်ယောက်ပဲခြားရမည်။အကယ်၍တစ်ဦး သည် အနီးစပ်ဆုံးဖြစ်၍ အခြားတစ်ဦးသည် တော်စပ်မှုဝေးကွာပါက အနီးစပ်ဆုံး တော်စပ်သူသည် အဝေးတော်စပ်သူအား အမွေမှ လက်မဲ့ဖြစ်စေပေမည်။

❷ အဖွားသည် အောက်ဖော်ပြပါပုံစံ (၄) ခုတွင် အမွေမှလက်မဲ့ဖြစ်ပေမည်။

① သေသူ၏ မိခင်ရှိပါက အဖွားအားလုံးပြုတ်ကျသွားပေမည်။ ဖခင်ဘက်မှ ဖြစ်စေ ၊ မိခင်ဘက်မှဖြစ်စေ။

② သေသူ၏ဖခင်ရှိပါက ဖခင်ဘက်မှတော်စပ်သောအဖွားများ(ဒါဒီ)များသာ အမွေမှ လက်မဲ့ ဖြစ်ပေမည်။ မိခင်ဘက်မှ တော်စပ်သော အဖွား (နာနီ)များ လက်မဲ့မဖြစ်ပေ။

③ သေသူ၏အဖိုးရှိပါက ထိုအဖိုး၏အကြောင်းခံဖြင့်တော်စပ်သော အဖွား (ဒါဒီ) များသာ အမွေမှလက်မဲ့ဖြစ်ပေမည်။ ပမာအားဖြင့် ဒါဒါ ကြောင့် ဒါဒါ၏ မိခင်(သေသူ၏အဖွား) ပြုတ်ကျသွားပေမည်။သို့သော် ဒါဒီသည် ဒါဒါ ကြောင့် မပြုတ်ကျပေ။အကြောင်းမှာ ဒါဒီသည် သေသူနှင့် တော်စပ်ရာတွင် ဒါဒါ၏ အကြောင်းခံမပါပဲ။ထိုနည်းအတိုင်းအထက်ဆက်ထိနားလည်ရမည်။

**မှတ်ချက်** ☞ ဒါဒီသည် ဖခင်ကြောင့် အမွေရခြင်းစာရင်းမှ ပြုတ်ကျသွားပေသည်။ သို့သော် ဒါဒါကြောင့် ပြုတ်မကျပေ။ ဤ မစ်အလဟ် သည် ကျမ်းပြုဆရာ သခင်ကနောက်တွင်ဖော်ပြမည်ဟု ကတိပြုပြောဆိုခဲ့သော (အဖေနှင့် အဖိုးကွာခြင်းမှု(၄)ခုသောမစ်အလဟ်)ထဲမှဖြစ်ပေသည်။

④ အနီးစပ်ဆုံးအဖွားသည် မည်သည့်တော်စပ်မှုမျိုးနှင့်ဖြစ်စေ အဝေးဆုံးအဖွားကို ပြုတ်ကျစေသည်။ ဖခင်ဘက်မှဖြစ်စေ၊ မိခင်ဘက်မှဖြစ်စေ၊ ၎င်းသူမသည် **ساقط** ဖြစ်စေ၊ **وارث** ဖြစ်စေ။



## ❖ باب مخارج الفروض ❖

**အမေး** ✍ **مخارج** ကိန်းဂဏန်းများကိုဖေါ်ပြပါ။

**အဖြေ** ✍ (၇) ခုရှိပါသည်။ ၂-၃-၄-၆-၈-၁၂-၂၄ တို့ဖြစ်သည်။

**အမေး** ✍ **مسئلة** သိရှိရန် **قاعدة** ဥပဒေ မည်မျှရှိပါသနည်း။

**အဖြေ** ✍ (၅) ခု ရှိပါသည်။

❶ အကယ်၍မစ်အလဟ်များသည် ကျမ်းတော်မြတ်ကုရ်အာန်၌ဖေါ်ပြထားသောဝေစုတစ်စုတည်းကဖြစ်ပါကထိုဝေစု၏ဂဏန်းတူစာလုံးဖြင့် မစ်အလဟ်တည်ရပေမည်။

❷ အကယ်၍မစ်အလဟ်များသည် ဝေစုနှစ်ခု(သို့) နှစ်ခုထက်အများရှိပါက ထိုဝေစုများသည် အမျိုးအစားတစ်ခုတည်းမှဖြစ်ရှိခဲ့သော် ငယ်သောဝေစု၏ဂဏန်းတူထဲမှ မစ်အလဟ်တည်ရပေမည်။

❸ အကယ်၍ပထမအမျိုးအစားထဲမှ **نصف** နှင့် ဒုတိယအမျိုးအစားထဲမှ အားလုံး(သို့)အချို့နှင့်အတူပေါင်းစည်းလာပါက မစ်အလဟ် (၆) ဖြင့် တည်ရပေ မည်။ အလိုသဘောမှာ တည်ကိန်းသည် (၆) ဖြစ်မည်။

❹ အကယ်၍ပထမအမျိုးအစားထဲမှ **ربع** နှင့် ဒုတိယ အမျိုးအစား အားလုံး (သို့) အချို့နှင့်ပေါင်းစည်းလာပါက မစ်အလဟ်(၁၂) ဖြင့်တည်ရပေမည်။

❺ အကယ်၍ပထမအမျိုးအစားထဲမှ **ثمن** နှင့် ဒုတိယအမျိုးအစားအားလုံး (သို့) အချို့ပေါင်းစည်းလာပါက မစ်အလဟ် (၂၄) ဖြင့်တည်ရပေမည်။

## ❖ باب العول ❖

**အမေး** ✍ **عول** အလိုသဘောမှာ **مخرج** ၌ တိုးမြှင့်ပေးခြင်း အကြောင်းကို ဖော်ပြပါ။

**အဖြေ** ✍ **عول** ၏ အဘိဓါန်အဓိပ္ပါယ်မှာ လွမ်းမိုးခြင်း၊သာပိုခြင်း တို့ဖြစ်သည်။ အရဗီအသုံးအနှုန်းတွင် ချိန်ခွင်တစ်ဖက်သည်အခြားတစ်ဖက်ထက်သာပိုခြင်းကြောင့် မြောက်တက်သွားသေ အခါ **عال الميزان** ဟု ပြောဆိုသုံးနှုန်းပေသည်။

အမွေဆိုင်ရာဝေါဟာရအဓိပ္ပါယ်မှာ **مخرج** မှ ဝေစုများတိုးလာသည့်အတွက်ကြောင့် **مخرج** ၏ ဝေစုကိုတိုးမြှင့်ပေးခြင်းဖြစ်သည်။

ပမာအားဖြင့် ဖရဲသီးတစ်လုံးကို (၄)ပုံခွဲမည်ဆိုပါက ၎င်းကိုလေးစိတ် စိတ်ရပေမည်။ သို့သော် ယူမည့်သူ (၅)ဦးရှိပါက ၎င်းကို (၄)စိတ် စိတ်ရမည့်အစား (၅)စိတ် စိတ်ရပေမည်။ ဤပုံစံသည် **مخرج** ၏ **أجزاء** ၌တိုးမြှင့်ပေးခြင်း၏ အလိုသဘောဖြစ်သည်။ ၎င်းကို **عول** ဟုခေါ်ဆိုပေသည်။

**အမေး** ✍ **مخرج** အားလုံးမည်မျှရှိပါသလဲ။

**အဖြေ** ✍ (၇) ခု ရှိပါသည်။ ၂-၃-၄-၆-၈-၁၂-၂၄ တို့ဖြစ်ပေသည်။

**အမေး** ✍ **عول** မလာရှိသော **مخرج** များကိုဖော်ပြပါ။

**အဖြေ** ✍ ၂-၃-၄-၈ တို့ဖြစ်သည်။

**အမေး** ✍ **عول** လာရှိသော **مخرج** များကိုဖေါ်ပြပါ။

**အဖြေ** ✍ ၆-၁၂-၂၄ တို့ဖြစ်ပါသည်။

**အမေး** ✍ကိန်းဂဏာန်းတစ်ခုချင်းစီ၏ **عول** လာရှိသော **مخرج** များကိုဖေါ်ပြပါ။

**အဖြေ** ✍ (၆) ၏ **عول** မှာ ၇-၈-၉-၁၀ ထိလာရှိပေသည်။ သဘောမှာ စုံကိန်း ၊မကိန်း နှစ်ခုစလုံး လာရှိပေသည်။

၁၂၏ **عول** မှာ ၁၃-၁၅-၁၇ ထိလာရှိပေသည်။ မကိန်းသာလျှင်လာရှိပါသည်။

၂၄၏ **عول** မှာ ၂၇ သာ လာရှိပါသည်။

ပမာအားဖြင့် ➲ ဇနီး ၊ သမီးနှစ်ယောက် ၊ အဖေ ၊ အမေ မစ်အလဟ်ကိန်းဂဏာန်းမှာ ၂၇ဖြစ်သည်။

## ❖ فَصْلٌ فِى مَعْرِفَةِالتَّمَاثُلِ وَالتَّدَاخُلِ وَالتَّوَافُقِ وَالتَّبَايُنِ بَيْنَ الْعَدَدَيْنِ ❖

## ကိန်းဂဏာန်းအရေအတွက်များ၏ကြားတွင် အချိတ်အဆက် **نسبت** ဖြစ်ခြင်းအကြောင်း

**အမေး** ✍ **عدد** ဆိုသည်မှာ ဘယ်အရာကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **عدد** ဆိုသည်မှာ စာလုံးတစ်ခု၌အရေအတွက်ရှိခြင်းကိုခေါ်ဆို ပါသည်။ ဥပမာ ➲ ၂ ၃ ၄ ၅ ၆ ၇ ၈ ၉

➭ (၁) ၌ အရေအတွက်မရှိသောကြောင့် (၁) သည် **عدد** ဟုမခေါ်ပေ။

➷ **عدد** သည် အမြဲတမ်းနှစ်ဘက်စလုံး၏ပေါင်းစပ်မှုရဲ့တစ်ဝက်ဖြစ်ပေသည်။ ပမာအား ဖြင့် ၄ ၏ အပေါ်၌ ၆ ၊ ၄ ၏ အောက်၌ ၂ ၊ ၎င်းအပေါ်၊အောက် ပေါင်းစပ်ခြင်း ဖြင့် (၈) ဖြစ်ပေသည်။ (၄) သည် ထို (၈) ၏ တစ်ဝက်ဖြစ်ပေသည်။

သို့သော် (၁) သည် အရေအတွက်မဟုတ်ပေ။အဘယ့်ကြောင့်ဆိုသော် ၎င်း (၁) ၏ အောက်၌မည်သည့်ကိန်းတစ်စုံတစ်ရာမှ မရှိပေ။

**အမေး** ✍ ကိန်းဂဏန်းနှစ်ခုကြား၏ **نسبت** အမျိုးအစားကိုဖော်ပြပါ။

**အဖြေ** ✍ (၄) ခုရှိပါသည်။ **تباين . توافق . تداخل . تماثل** တို့ဖြစ်ပေသည်။

❶ **تماثل** ဆိုသည်မှာ ကိန်းတစ်ခုနှင့်တစ်ခုတူညီနေပေသည်။ဥပမာ ၅-၅

❷ **تداخل** ဆိုသည်မှာ ........

❍ ကြီးသောကိန်းတစ်ခုမှ ငယ်သောကိန်းတစ်ခုကို ခွဲဝေပေးရာ၌ အကြွင်း မရှိဘဲ ကိန်းပြည့်ခွဲဝေပေးနိုင်ခြင်းကိုခေါ်ဆိုပေသည်။

❍ ကြီးသောဂဏန်းသည် သေးသောဂဏန်းအပေါ်၌ တန်းတူ ခွဲလို့ရပါက **تداخل** ၏ **نسبت** ဖြစ်ပေသည်။ ဥပမာ - ၉ - ၃

❍ သေးသောဂဏန်းအပေါ်၌ ထိုကဲ့သို့ ဂဏန်း တစ်ကြိမ် (သို့) အကြိမ်ကြိမ် သာပိုမှုပြုလုပ်ပေးပါက ထိုဂဏန်းသည် အကြီးနှင့်တန်းတူဖြစ်သွားပေသည်။

❍ သေးငယ်သောဂဏန်းသည် ကြီးသောဂဏန်း၏ အစိတ်အပိုင်းဖြစ်သည်။

❸ **توافق** ဆိုသည်မှာ ကိန်းနှစ်ခုမှ ငယ်သောကိန်းသည် ကြီးသောကိန်းတစ်ခုကို အကြွင်းမရှိဘဲခွဲဝေပေး၍မရနိုင်ပေ။သို့သော်အခြားကိန်းတစ်ခုသည် ထိုကိန်း နှစ်ခုစလုံးကို စား၍ပြတ်နိုင်သည်။၎င်း ကို **توافق** ဟုခေါ်ဆိုပေသည်။ ဥပမာ-၂၀-၈

❹ **تباین** ဆိုသည်မှာ ကိန်းနှစ်ခုမှ ငယ်သောကိန်းကို အကြီးကိန်းက အကြွင်းမရှိဘဲ မစားနိုင်သလို အခြားကိန်းတစ်ခုသည်လည်း ထိုကိန်းနှစ်ခုစလုံးကို မစားနိုင်ပေ။ ဥပမာ - ၄ - ၅

**အမေး** ✍ **وِفْقٌ** ဆိုသည်မှာ ဘယ်အရာကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ ဂဏန်းနှစ်ခုကို ပြတ်အောင်စားနိုင်သော တတိယဂဏန်းကို **وِفْقٌ** ဟုခေါ် ဆိုပါသည်။ ဥပမာ ၂၀ - ၈ ဂဏန်းနှစ်ခုထဲမှ တစ်ခုသည် နောက်တစ်ခုကို မချေဖျက်နိုင်ပေ။ သို့သော်ထိုဂဏန်းနှစ်ခုကို တတိယဂဏန်းတစ်ခုခုက ချေဖျက်နိုင်သည်။၎င်းတတိယဂဏန်းမှာ (၄) ဖြစ်သည်။ (၈) ကို (၄ နှစ်ကြိမ်ဖြင့် ) (၂၀) ကို (၄ ငါးကြိမ်ဖြင့် ) ချေဖျက်ပေးနိုင်သည့်အတွက်ကြောင့် (၈) ၏ **وِفْقٌ** မှာ ၂ ဖြစ်ပြီး (၂၀) ၏ **وِفْقٌ** မှာ ၅ ဖြစ်ပေသည်။

**အမေး** ✍ **توافق** ၏ အသုံးအနှုန်းများကိုဖော်ပြပါ။

**အဖြေ** ✍ ဂဏန်းနှစ်ခုတွင် (၂) ဖြင့် ဖြစ်ပါက **توافق بالنصف** ။(၃) ဖြင့်ဖြစ်ပါက **توافق بالثلث** ၊ ဤနည်းအတိုင်း (၁၀) ဖြင့်ဖြစ်ပါက **توافق بالعشر** ဟု ခေါ်ဆိုပေသည်။ အကယ်၍ (၁၀) ထက်ကြီးသော ဂဏန်းများဖြင့် ဖြစ်ပါက **بجزء من**

အပိုဖြင့် ခေါ်ဆိုပေသည်။ ဥပမာ (၁၁) ဖြင့် ဖြစ်ပါက **توافق بجزء من أحد عشر** ဟုခေါ်ဆိုပေသည်။

## ❖ باب التصحيح ❖

**အမေး** ✍ **تصحيح** ရဲ့ အချို့အခေါ်အဝေါ်များကိုဖေါ်ပြပါ။

**အဖြေ** ✍ ① **تصحيح** ၏အဘိဓါန်အဓိပ္ပါယ်မှာ ညီမျှအောင်ပြုလုပ်ခြင်း ဖြစ်သည်။အမွေဆိုင်ရာဝေါဟာရအဓိပ္ပါယ်မှာ **كسر** အပိုင်းအစအကြွင်းကိုဝေးကွာအောင်ပြုလုပ်ခြင်း၊ အလိုသဘောမှာ အမွေထိုက်သူတို့၏အပိုင်းအစဖြစ်နေသောဝေစုကို ညီမျှသွားရန် အပိုင်းအစအကြွင်းကင်းရှင်းသော ဂဏာန်းကို ရှာဖွေခြင်း။

② **سهام** သည် **سهم** ၏ **جمع** ဖြစ်ပေသည်။ အဓိပ္ပါယ်မှာ ဝေစုကိုခေါ်သည်။ အမွေဆိုင်ရာ ဝေါဟာရအဓိပ္ပါယ်၌ အမွေထိုက်သူတိုင်းကို **أصل مسئلة** (သို့) **تصحيح مسئلة** မှရရှိသောဝေစုကို ခေါ်ဆိုပေသည်။

③ **رؤوس** သည် **رأس** ၏ **جمع** ဖြစ်သည်။ အဓိပ္ပါယ်မှာ ဦးခေါင်းဖြစ်ပေသည်။ အမွေဆိုင်ရာဝေါဟာရအဓိပ္ပါယ်မှာ အမွေဆက်ခံသူတို့၏ အရေအတွက်ကို **رؤوس** ဟုခေါ်ဆိုပါသည်။

④ **طائفة/فريق** ၏ အဓိပ္ပါယ်မှာ အဖွဲ့/အုပ်စု ဖြစ်သည်။ အမွေဆိုင်ရာဝေါဟာရမှာအမွေစားအမွေခံအမျိုးအစားအုပ်စုတစ်ခုကို **طائفة/فريق**ဟုခေါ်ဆို ပေသည်။

ဥပမာ သမီး၈ဦး ၊ ဇနီး၃ဦး ၊ ညီအစ်ကို၅ဦး ရှိပါက အမွေစားအမွေခံများသည် အုပ်စု **طائفة/فريق** (၃) ခုဖြစ်ပေသည်။

⑤ **مضروب** ၏အဓိပ္ပါယ်မှာမြှောက်ခြင်းခံရသောဂဏန်းဖြစ်သည်။ အမွေဆိုင်ရာဝေါဟာရမှာ **أصل مسئلة** ဖြင့် မြှောက်ခြင်းခံရသောဂဏန်းဖြစ် သည်။

⑥ **مبلغ** ၏အဓိပ္ပါယ်မှာမြှောက်၍ရသောဂဏန်းကို **مبلغ**ဟုခေါ်ဆိုပါသည်။

⑦ **كسر** အပိုင်းဂဏန်းကိုခေါ်ဆိုပေသည်။ ဥပမာ သုံးပိုင်းတစ်ပိုင်း။

⑧ **مسئلة عائلة** အကြွင်းမစ်အလဟ်သည် **عول** ဖြစ်နေပါကရင်းကို **مسئلةعائلة** ဟုခေါ်ဆိုပေသည်။

**အမေး** ✍ **تصحيح** ၏ **مسئلة** အတွက် ဥပဒေများကို ဖေါ်ပြပါ။

**အဖြေ** ✍ (၇) ခုရှိပါသည်။ (၃)ခုသည် **سهام** နှင့် **رؤوس** ကြား၌ဖြစ်ပြီး နောက်ဥပဒေ (၄)ခု သည် **رؤوس** တစ်ခုနှင့်နောက် **رؤوس** တစ်ခုကြားမှာဖြစ်ပေသည်။

**အမေး** ✍ **سهام** နှင့် **رؤوس** ကြားတွင် အသုံးပြုရသောဥပဒေများကိုဖေါ်ပြပါ။

**အဖြေ** ✍ (၃) ခုရှိပါသည်။

❶ အုပ်စုတိုင်း၏ **سهام** နှင့် **رؤوس** ၏ အရေအတွက်၌ တန်းတူညီမျှခွဲဝေမှု ဖြစ်ပါက မည်သည့်အရာကို မှ မြှောက်ရန်မလိုအပ်ပေ။

❷ အုပ်စုတစ်ခုအပေါ်၌ **كسر** ဖြစ်ပါက ၎င်း၏ **سهام** နှင့် **عددرؤوس** ကြား တွင် **توافق** ၏ **نسبت** ဖြစ်ပါက **عددرؤوس** ၏ **وِفْقٌ** ကို **أصل مسئلة** ဖြင့် မြှောက်ရပေမည်။အကယ်၍ **مسئلةعائلة** ဖြစ်ပါက **عول** နှင့် မြှောက်ခြင်းဖြင့် မစ်အလဟ် သည် **تصحيح** ဖြစ်သွားပေမည်။ **تصحيح** မှ အုပ်စုတိုင်း၏ ဝေစု ခွဲထုတ်ရန် **سهام** ကို **مضروب** နှင့် မြှောက်ရပေ မည်။

❸ အုပ်စုတစ်စုပေါ်၌ **كسر** ဖြစ်ပါက ၎င်း၏ **سهام** နှင့် **عددرؤوس** ကြားတွင် **تباين** ၏ **نسبت** ဖြစ်ပါက **كسر** ကျရောက်သော **عددرؤوس** တစ်ခုလုံးကို **أصل مسئلة** နှင့် မြှောက်ရပေမည်။ **مسئلةعائلة** ဖြစ်ပါက **عول** နှင့် မြှောက် ခြင်းဖြင့် မစ်အလဟ် **تصحيح** ဖြစ်သွားပေမည်။

**အမေး** ✍ **روؤس** တစ်ခုနှင့် နောက် **روؤس** တစ်ခုကြား၌သုံးစွဲရသော ဥပဒေ များ ကို ဖော်ပြပါ။

**အဖြေ** ✍ (၄) ခုရှိပါသည်။

❶ အပိုင်းဂဏာန်းသည် အုပ်စု နှစ်စု (သို့) နှစ်စုထက်ပိုသောအုပ်စုများတွင် **كسر** ဖြစ်ရှိနေပါက ၊ ၎င်းအုပ်စုများ၏အရေအတွက်ကြားတွင် **تماثل** ၏ **نسبت** ရှိပါမူ အုပ်စုတစ်စု ၏ **عددرؤوس** ကိုယူ၍ **أصل مسئلة** နှင့် မြှောက် ခြင်း ဖြင့် မစ်အလဟ်သည် **تصحيح** ဖြစ်သွားပေမည်။

❷ အပိုင်းဂဏာန်းသည် အုပ်စုအသီးသီးတွင်ဖြစ်ရှိနေပါက ၎င်းအုပ်စုများ၏ အရေအတွက်သည် **تداخل** ၏ **نسبت** ဖြစ်နေပါက ၎င်း **عددرؤوس** ထဲမှ

အကြီးဆုံးဂဏန်းကိုယူပြီး **أصل مسئلة** နှင့် မြှောက်ခြင်းဖြင့် မစ်အလဟ်သည် **تصحيح** ဖြစ်သွားပေမည်။

❸ အပိုင်းဂဏန်းသည် အုပ်စုအသီးသီးတွင်ဖြစ်ရှိနေပြီး ၎င်းတို့၏ ကြားတွင် **توافق** ၏ **نسبت** ဖြစ်နေပါမူ အုပ်စုတစ်စု၏ **عددرؤوس** ၏ **وِفْق** ကို ဒုတိယ အုပ်စု၏ **عددرؤوس** တစ်ခုလုံးနှင့် မြှောက်ရ ပေမည်။ ၎င်းမြှောက်၍ရရှိသော **مبلغ** နှင့် တတိယအုပ်စု၏ **عددرؤوس** တို့ကြား **نسبت** ကို ကြည့်ရ ပေမည်။ အကယ်၍ **توافق** ၏ **نسبت** ဖြစ်ပါက မြှောက်၍ရရှိသောဂဏန်းကို တတိယ အုပ်စု ရဲ့ **عددرؤوس** ၏ **وِفْق** နှင့် မြှောက်ရပေမည်။ အကယ်၍ **تباين** ၏ **نسبت** ဖြစ်ပါက **مبلغ** ကို တတိယအုပ်စု၏ **عددرؤوس** တစ်ခုလုံးနှင့် မြှောက်ရပေမည်။ ထို့နောက် နောက်ဆုံးရရှိလာသော **مبلغ** ကို **أصل مسئلة** နှင့် မြှောက်ပေးခြင်းဖြင့် မစ်အလဟ်သည် **تصحيح** ဖြစ်သွားပေမည်။

❹ အပိုင်းဂဏန်းသည် အုပ်စုအသီးသီးတွင်ဖြစ်ရှိနေပြီး ၎င်းအုပ်စုများ၏ **عددرؤوس** ကြားတွင် **تباين** ၏ **نسبت** ဖြစ်ပါမူ **عدد** တစ်ခုကို နောက် **عدد** တစ်ခုလုံး နှင့် မြှောက်ရပေမည်။ ထို့နောက် **مبلغ** ကို တတိယ **عدد** နှင့် မြှောက်ရပေမည်။ ထို့နောက် **مبلغ** ကို စတုတ္ထ **عدد** နှင့် မြှောက်ရပေမည်။ ထို့နောက် နောက်ဆုံးရရှိသော **مبلغ** ကို **أصل مسئلة** နှင့် မြှောက်ခြင်းဖြင့် မစ်အလဟ်သည် **تصحيح** ဖြစ်သွားပေမည်။

**အမေး** ✍ *تصحیح* မှ တစ်ဦးချင်းစီ ဝေစုများကို သိရှိနိုင်မည့် နည်းလမ်းများကို ဖေါ်ပြပါ။

**အဖြေ** ✍ နည်းလမ်း (၃) ခု ရှိပေသည်။

❶ သင်သည် အုပ်စုတစ်ခုတိုင်းအတွက်ရရှိသောဝေစုကို သိလိုပါက အုပ်စုတိုင်း၏ **أصل مسئلة** မှ ရရှိသော ဝေစုတိုင်းကို **عددرؤوس** ပေါ်တွင် ခွဲဝေပေးရပေမည်။ ထို့နောက် ထိုရလဒ်ကို **أصل مسئلة** ၏ **مضروب** နှင့် မြှောက်လိုက်ပါက ရရှိသော ဂဏန်းသည် ထိုအုပ်စု၏ တစ်ဦးချင်းစီ၏ ဝေစုဖြစ်ပေသည်။

❷ သင်သည်အုပ်စုတစ်ခုတိုင်းအတွက်ရရှိသောဝေစုကိုသိလိုပါကအုပ်စုတစ်ခု၏ **مضروب** ကို ခွဲဝေပေးရမည်။ ထို့နောက်ရရှိလာသော ဂဏန်းကို **أصل مسئلة** မှရရှိသောဝေစုနှင့်မြှောက်ရပေမည်။ မြှောက်၍ရရှိသောဂဏန်းသည် ထိုအုပ်စု၏ တစ်ဦးချင်းစီ၏ ဝေစု ဖြစ်ပေသည်။

❸ သင်သည် အုပ်စုတစ်ခု တိုင်း အတွက် ရရှိသော ဝေစုကို သိလိုပါက….

**أصل مسئلة** မှ အုပ်စု တိုင်း၏ ဝေစုနှင့် **عددرؤوس** ၏ကြားတွင် **نسبت** ကြည့်ရပေမည်။ ထို့နောက် **مضروب** ဂဏန်းသို့ရောက်ရန်**نسبت** ရှိသည့်ခန့်မှု ဂဏန်းသည် ထိုအုပ်စု၏ တစ်ဦးတိုင်းစီ၏ ဝေစု ဖြစ်ပေသည်။

(ဤနည်းလမ်းသည် **نسبت**၏နည်းလမ်းဖြစ်ပေရာသာပို၍ရှင်းလင်းပေသည်။)



## ❖ فصل فی التخارج ❖

**အမေး** ✍ **تخارج** ဆိုသည်မှာ မည်သည့် အရာကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **تخارج** ဆိုသည်မှာ ကျန်ရှိပစ္စည်းများထဲမှ အမွေစားအမွေခံတစ်ဦး တစ်ယောက်သည် ကိုယ်နှစ်သက်ရာ၊သင့်တော်ရာကိုယူ၍ အမွေမှ ကင်းရှင်းမှု လိုလားပြီးကျန်အမွေဆိုင်သူများကလည်းသဘောတူကျေနပ်မှုရှိလျှင် ထိုကဲ့သို့ ပြုလုပ်ခြင်းပိုင်ပေသည်။ ၎င်းကို **تخارج** ဟုခေါ်ဆိုပါသည်။

**အမေး** ✍ **تخارج** ၏ **لغوي** နှင့် **اصطلاحي** ကို ဖော်ပြပါ။

**အဖြေ** ✍ **باب تفاعل** မှ ဖြစ်ပေသည်။ အဓိပ္ပါယ်မှာထွက်ခြင်း။ အမွေဆိုင်ရာ ဝေါဟာရမှာ အမွေဆိုင်သူတစ်ဦး(သို့)အချို့က **تركة** ထဲမှအချင်းချင်း ကျေနပ်မှု ဖြင့် တစ်စုံတစ်ခုကို သတ်မှတ်ရယူ၍ ကျန်ပစ္စည်းများ အားလုံးမှ ကင်းစင်ခြင်း။

**အမေး** ✍ **وارث** တစ်ဦးတစ်ယောက်က **مصالحت** လုပ်လိုပါကကျန်ရှိ **تركة** များကို မည်သည့် ဥပဒေဖြင့် ခွဲဝေပြုလုပ်ဆောင်ရွက်ရမည်နည်း။

**အဖြေ** ✍ **وارث** တစ်ဦးတစ်ယောက်သည် **مصالحت** ပြုလုပ်လိုပါက ပထမဦး စွာ **وارث** အားလုံးကို ရေး၍ မစ်အလဟ်ကို **تصحيح** ပြုလုပ်ရမည်။ပြီးနောက် **صلح** ပြုသူ၏ဝေစုကို **تصحيح** ထဲမှနုတ်ပစ်ရပေမည်။ ထို့နောက် ကျန်ရှိသော ဝေစုပေါ်တွင် **تركة** များအားခွဲဝေပေးရမည်။



## ❖ باب الرّدّ ❖

**အမေး** ✍ **ردّ** ဆိုသည်မှာ အဘယ်အရာကို ခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **ردّ** သည် **عول** ရဲ့ဆန့်ကျင်ဘက်ကိုခေါ်ဆိုပေသည်။ **عول** တွင် **أصل مسئلة** ၌ဝေစုတိုးသွားပေသည်။ **ردّ** တွင် **أصل مسئلة** မှဝေစုနည်းရပေမည်။

**အမေး** ✍ **ردّ** ၏ အဘိဓါန်အဓိပ္ပါယ်နှင့် ဝေါဟာရ အလိုသဘောကိုတင်ပြပါ။

**အဖြေ** ✍ **ردّ** အဘိဓါန်အဓိပ္ပါယ်မှာ ပြန်လှည့်ခြင်း။

အမွေဆိုင်ရာဝေါဟာရမှာ **ذوى الفروض**များကိုပေးပြီးနောက်အနည်းငယ်ကျန်ပြီး**عصبة**တစ်ဦးတစ်ယောက်မျှမရှိပါကဒုတိယအကြိမ် **نسبى أصحاب الفرائض** များကို သူတို့၏ဝေစုအတိုင်းတစ်ဖန်ပြန်ပေးခြင်း။

**အမေး** ✍ **من يردّعليه** သည် မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **ردّ** သည် **نسبى اصحاب الفرائض** အတွက်သာလျှင်ဖြစ်ပေသည်။ ၎င်းကို **من يردّعليه** ဟုခေါ်ဆိုပေသည်။

**အမေး** ✍ **من لايردّعليه** သည် မည်သူ့ကိုခေါ်ဆိုပါသနည်း။

**အဖြေ** ✍ **زوجين** ကိုခေါ်ဆိုပါသည်။ဆိုလိုသည်မှာ **زوجين** သည် **نسبي** မဟုတ်ပေ။ ထို့ကြောင့်၎င်း တို့အပေါ် **ردّ** မဖြစ်ပေ။ ၎င်းတို့သည် **من لايردّعليه** ဟုခေါ်ဆိုပေသည်။

**အမေး** ✍ **ردّ** ၏ **مسائل** အမျိုးအစားများကိုဖေါ်ပြပါ။

**အဖြေ** ✍ (၄) မျိုးရှိပါသည်။

❶ **من يردّعليه** ၏ အမျိုးအစားတစ်ခုတည်းဖြစ်ခြင်း။

❷ **من يردّعليه** ၏အသီးသီးသောအမျိုးအစားများဖြစ်ခြင်း။

❸ **من يردّعليه** ၏အမျိုးအစားတစ်ခုနှင့်အတူ **من لايردّعليه** ၏အမျိုးအစား လည်း ရှိခြင်း။

❹ **من يردّعليه** ၏ အသီးသီးသောအမျိုးအစားများနှင့်အတူ **من لايردّعليه** ၏ အမျိုအစားလည်းရှိခြင်း။

**အမေး** ✍ **ردّ** ၏ ဥပဒေများကိုဖေါ်ပြပါ။

**အဖြေ** ✍ ❶ မစ်အလဟ်တစ်ခု၌ **من يردّعليه** ၏ အမျိုးအစားတစ်ခုတည်းရှိပါက ၎င်းအမျိုးအစား၏ အရေအတွက်ဖြင့် မစ်အလဟ်တည်ရပေမည်။ ဥပမာ အကယ်၍သမီးနှစ်ဦးပဲရှိပါက(သို့) ညီမ၊အစ်မ နှစ်ဦး (သို့) ဒါဒီနှစ်ဦးတည်းသာ ရှိပါက မစ်အလဟ် (၂) ဖြင့်တည်ရပေမည်။

❷ **من يردّعليه** ၏အမျိုးအစားနှစ်ဖွဲ့၊သုံးဖွဲ့ ဖြစ်ပြီး **من لايردّعليه** မရှိပါက မစ်အလဟ်ကို ၎င်းတို့၏ ဝေစု အားလုံးနှင့်ပြုလုပ်ရပေမည်။

ဥပမာ ➲ မစ်အလဟ်တစ်ခုတွင် ခြောက်ပုံတစ်ပုံ နှစ်ခုရှိပါက မစ်အလဟ်(၂) ဖြင့်တည်ရပေမည်။ အကယ်၍မစ်အလဟ်တစ်ခုတွင်သုံးပုံတစ်ပုံနှင့် ခြောက်ပုံတစ်ပုံဖြစ်ပါကမစ်အလဟ်(၃)တည်ရပေမည်။

အကယ်၍မစ်အလဟ်တစ်ခုတွင် နှစ်ပုံတစ်ပုံနှင့် ခြောက်ပုံတစ်ပုံဖြစ်ပါက (၄) ဖြင့်မစ်အလဟ်တည်ရပေမည်။ အကယ်၍သုံးပုံနှစ်ပုံနှင့်ခြောက်ပုံတစ်ပုံ၊ နှစ်ပုံတစ်ပုံနှင့် ခြောက်ပုံနှစ်ပုံ ၊ နှစ်ပုံတစ်ပုံနှင့် သုံးပုံတစ်ပုံ ဖြစ်ပါက မစ်အလဟ် (၅) ဖြင့်တည်ရပေမည်။

❸ အကယ်၍ **مسئله من يردّعليه** ၏အမျိုးအစားတစ်ခုနှင့်အတူ **مسئله من لايردّعليه** လည်းရှိပါက **مسئله من لايردّعليه** ၏ ဝေစုဖြင့် မစ်အလဟ်ပြုလုပ်၍ **مسئله من لايردّعليه** ကိုပေးရပေမည်။ ထို့နောက်ကျန်ပစ္စည်းသည် **مسئله من يردّعليه** ၏အရေအတွက်နှင့် ညီတူညီမျှ ဖြစ်ပါက **مسئله من يردّعليه** ကိုကျန်တာပေးရပေမည်။

❹ အကယ်၍ **مسئله من يردّعليه** ၏အမျိုးအစား နှစ်ဖွဲ့၊သုံးဖွဲ့နှင့်အတူ **مسئله من لايردّعليه** လည်းရှိပါက **مسئله من يردّعليه** နှင့် **مسئله من لايردّعليه** ၏ မစ်အလဟ်နှစ်ခုစလုံးကို သီးသန့်စီပြုလုပ်ရပေမည်။ထို့နောက် **مسئله من لايردّعليه** ကိုပေးပြီးနောက် ၎င်း၏ ကျန်ရှိပစ္စည်းနှင့် **مسئله من يردّعليه** ၏မစ်အလဟ်ကြား၌ **تماثل** ၏ **نسبت** ဖြစ်ပါက ကျန်ရှိ ပစ္စည်းကို **مسئله من يردّعليه** အားပေးရမည်။ ၎င်း **مسئله من لايردّعليه** ၏ **مخرج** သည်သာလျှင် **مسئله من يردّعليه** ၏ **مخرج** ဖြစ်ပေမည်။



## ❖ باب مقاسمة الجدّ ❖

### <u>အဖိုးအရင်းနှင့်အတူညီအစ်ကိုမောင်နှမတို့၏ကြားတွင်</u>
### <u>ကျန်ရှိပစ္စည်းအားခွဲဝေခြင်း</u>

**အမေး** ✍ **مقاسمة** ၏ အဘိဓါန်အဓိပ္ပါယ်နှင့်ဝေါဟာရဖွင့်ဆိုချက်ကိုဖေါ်ပြပါ။

**အဖြေ** ✍ **مقاسمة** အဘိဓါန်အဓိပ္ပါယ်မှာအချင်းချင်းခွဲဝေခြင်း။ ဝေါဟာရဖွင့်ဆိုချက်မှာအဖိုးအရင်းနှင့်ညီအစ်ကိုမောင်နှမတို့၏ကြား၌ ကျန်ရှိပစ္စည်းများ ခွဲဝေခြင်းကို **مقاسمة الجدّ** ဟုခေါ်ဆိုပေသည်။

✍ သဘောမှာ အဖိုးကို အစ်ကိုတစ်ယောက်ဟုသတ်မှတ်၍အမွေခွဲဝေခြင်း။

**အမေး** ✍ အဖိုးအသင့်ရှိနေချိန်၌ ညီအစ်ကိုမောင်နှမအရင်း ၊ ဖတူမိကွဲညီ၊ အစ်ကိုမောင်နှမများအားအမွေလက်မဲ့ဖြစ်စေခြင်းနှင့်ပက်သက်၍ဆွဟာဗာဟ် သာဝကကြီးများ၏ အဆို ကိုဖေါ်ပြပါ။

**အဖြေ** ✍ အဆို (၂) ခု ရှိပါသည်။

❶ **حضرت أبوبكر رضی الله عنه** က အမိန့်ရှိသည်မှာ ဒါဒါ အသက်ရှင်လျှက်နေချိန်၌ ညီအစ်ကိုမောင်နှမအရင်း၊ ဖတူမိကွဲမောင်နှမတို့သည် အမွေမှလက်မဲ့ဖြစ်လေသည်။ ဆွဟာဗဟ်သခင်ကြီးအများစုသည်ထိုအဆိုကို လက်ခံခဲ့ကြပေသည်။ ဤအဆိုကို **إمام أبوحنيفة رحمة الله عليه** ကရွေးချယ်ခဲ့လေသည်။ ၎င်းအဆိုအပေါ်တွင် **فتوی** ဓမ္မသတ်ရှိပေသည်။

❷ **حضرت زيد بن ثابت رضی الله عنه** ကအမိန့်ရှိသည်မှာ ......... အစ်ကို၊ညီအစ်ကိုမောင်နှမအရင်းများသည် ဒါဒါ နှင့်အတူ အမွေ ရရှိပေမည်။

၎င်းအဆိုကို **الأئمّة الثلاثة رحمهم الله** နှင့်ဟနဖီမဇ်ဟဗ်ထဲမှ **صاحبين** ကလည်း ဆိုကြပေသည်။

## ❖ باب المناسخة ❖

အမွေ ကူးပြောင်းခြင်း အကြောင်း

**အမေး** ✍ **مناسخة** ၏ **لغوي** နှင့် **اصطلاحي** အလိုသဘောကိုတင်ပြပါ။

**အဖြေ** ✍ **مناسخة** ၏ **لغوى** မှာ ကူးပြောင်းခြင်း၊ ဆင့်ပြန်ခြင်း ဖြစ်သည်။ **اصطلاحى** ဝေါဟာရအလိုသဘောမှာ ကျန်ရှိပစ္စည်းများကို ခွဲဝေမှုမပြုမှီ အလျှင် အမွေစားအမွေခံတစ်ယောက် သေဆုံးသွားသောကြောင့် သူ့၏ဝေစုကို သူ့၏ သားချင်းများဆီသို့ ရွှေ့ပြောင်းခြင်းကိုခေါ်ဆိုပါသည်။

**အမေး** ✍ **مناسخة** ၏အချို့သောအခေါ်အဝေါ်များကိုတင်ပြပါ။

**အဖြေ** ✍

① **مورث أعلى** ဆိုသည်မှာ ပထမဆုံးကွယ်လွန်သွားသူကိုခေါ်ဆိုပေသည်။

② **ما فى اليد** ၎င်း၏အတိုကောက်မှာ **مفـــ** ဖြစ်သည်။အလိုသဘောမှာ သေသူ၏ဝေစုကို ခေါ်ပေသည်။ အကြင်ဝေစုသည် သေသူ၏ အထက်ဆက်တစ်ဦးဦးထံမှ (သို့) အချို့အမွေထိုက်သူများထံမှ ရရှိသောဝေစုဖြစ်လေသည်။ ၎င်းဝေစုကိုသေသူ၏အရှည်မျဉ်းကြောင်း၏ဘယ်ဘက်တွင်ရေးသားဖော်ပြရပေသည်။

③ မြေပုံ၏ပုံစံ သေသူတိုင်း၏ **اليد فى ما** ကိုပြောင်းပြီးနောက်ရွှေ့ပြောင်းလိုက်သော ဝေစုကို ချက်ချင်းဝိုင်းလိုက်ရပေသည်။ ၎င်း၏ပုံစံမှာ {} ဤသို့ဖြစ်လေသည်။ ၎င်းကို **قبر** ဟုခေါ်ဆိုပေသည်။

④ **مبلغ** ဆိုသည်မှာ နောက်ဆုံးမြောက်၍ရသော ရလဒ် ကိုခေါ်ဆိုပေသည်။

⑤ **الأحياء** ဆိုသည်မှာ အသက်ရှင်နေသူအားလုံးကို ခေါ်ဆိုပေသည်။ နောက်ဆုံးတွင် မျဉ်းအရှည်ဆွဲ၍၎င်း၏အောက်တွင်ရှင်နေသော အမွေခံများ၏ နာမည်ကိုရေး၍ထိုအမည်များအောက်တွင် ထိုသူများ၏ ဝေစုကိုရေးရမည်။

## ❖ بعض المهمّات لتصحيح المسائل ❖

## မစ်အလဟ်မှန်ကန်ဖို့ရာ အရေးကြီးသော အချို့ညွှန်ကြားချက်များ

① **مناسخة** တွင်ရှိသော လူဦးရေအားလုံး ( **وارث/مورث** ) အမည်များနှင့် အတူသားချင်းများကို ရေးရန် အရေးကြီးပေသည်။

② ဒုတိယ သေသူတိုင်း၏ အမွေဆက်ခံသူများ၏ အမည်ကို ရေးသောအချိန်တွင် အပေါ်၌ရှိသော အမွေဆက်ခံသူများကိုလည်းပြန်လည်တစ်ဖန်ကြည့်ရှုရန်အရေးကြီးပေသည်။အကြောင်းမှာ **وارث** တစ်ဦးသည် များစွာသောသားချင်း တော်စပ်မှုကြောင့် အသီးသီးသောနေရာမှ **وراثت** ရရှိနိုင်ပေသည်။

③ **تصحيح ثانى** ၎င်းနောက် **اليد فى ما** တွင် ရှိသော **نسبت** ကို သေသူ၏အရှည်မျဉ်းကြားတွင် ရှင်းပြရန် ထိုက်သင့်ပေသည်။

④ အကယ်၍ သေသူသည်များစွာသောနေရာမှအမွေရရန်ရှိပါက **ماڧ اليد** ရေးသော အချိန်တွင် များစွာသောဝေစုများကို ၎င်း **الأحياء** ရေးသောအချိန်တွင် **ورثا** တိုင်း၏ ဝေစု ရဲ့ အရေအတွက်များကိုပါ ပေါင်းရန်ထိုက်သင့်ပေသည်။

**အမေး** ✍ **مناسخة** ၏ **أصول** များကိုဖော်ပြပါ။

**အဖြေ** ✍ ပထမ **ميت أول** ၏ **مسئلة** ကို **تصحيح** ၏အခန်းတွင်ဖော်ပြခဲ့သောနည်းလမ်းအတိုင်းပြုလုပ်ရပေမည်။ထို့နောက် **ميت أوّل** ၏ **ورثة** ကိုဝေစုပေးရမည်။ထို့နောက် **ميت ثانى** အား **ميت أول** မှရရှိသောဝေစုကို **ميت** ၏မျဉ်းကြောင်းအရှည်၏ဘယ်ဘက်တွင် **ما ڧ اليد** ၏အမှတ်အသားကိုပြုလုပ်ပေးရမည်။ ထို့နောက် **ميت ثانى** ၏ **مسئلةتصحيح** ၎င်း **ما ڧ اليد** တွင် **نسبت** ကြည့်ရပေမည်။

① အကယ်၍ **ميت ثانى** ၏ **تصحيح** နှင့် **ما ڧ اليد** တွင် **تماثل** ၏ **نسبت** ဖြစ်ပါကတစ်စုံတစ်ရာပြုလုပ်ရန်မလိုအပ်ပေ။

② အကယ်၍ **توافق** ၏ **نسبت** ရှိပါက **تصحيح ثانى** ၏ **وفق** ကို **تصحيح أول** ဖြင့် မြှောက်ရပေမည်။

③ အကယ်၍ **تباين** ၏ **نسبت** ဖြစ်ပါက **تصحيح ثانى** ၏ **وفق** ကို **تصحيح أول** တစ်ခုလုံးဖြင့် မြှောက်ရပေမည်။ ပုံစံနှစ်ခုစလုံး၏ ရရှိလာသောဂဏာန်းမှ နှစ်ယောက်လုံး၏ **ورثة** ၏အဝေစုထွက်ပေါ်လာပေမည်။ ဝေစုထုတ်ဖော်ရန်အတွက် **ميت أول** ၏ **ورثة** ရဲ့ **تصحيح أول** မှ ရရှိသော ဝေစုများကို

မြှောက်ခြင်းခံရသောဂဏာန်း **ثانى تصحيح** ၏ **وفق** (သို့) **كلّ تصحيح ثانى** တွင်မြှောက်ရပေမည်။ ၎င်း **ميت ثانى** ၏ **ورثة** ရဲ့ **تصحيح ثانى** ရရှိသောဝေစု ကို **توافق** ၏ပုံစံ၌ **ما فى اليد** ၏ **وفق** ၌ ၎င်း **تباين** ၏ပုံစံ၌ **كلّ ما فى اليد** တွင်မြှောက်ရပေမည်။

**မှတ်ချက်** ☛ ဤနေရာတွင် အထက်ဖော်ပြပါ ပုံစံအား အထူးသတိပြုရန် အရေးကြီးပေသည်။ အကြင် မစ်အလဟ်၏ **تصحيح** (သို့) **تصحيح** ၏ **وفق** ကို အထက်၏ **تصحيح** ၌ မြှောက်ရပေမည်။ ဤမစ်အလဟ်၏ **ورثاء** ရဲ့ဝေစု ကို **ما فى اليد** (သို့) **ما فى اليد** ၏ **وفق** တွင်မြှောက်ရပေမည်။ ၎င်းအလျှင်ရှိ သော မစ်အလဟ်များ၏ **ورثاء** ဝေစုကိုမြှောက်ခြင်းခံရသော ဂဏာန်းဖြင့် မြှောက်ရပေမည်။

## ❖ اَلْفَائِـــــــــدَةُ ❖

## အကျိုးကျေးဇူး

ဤဥပဒေသည် အဆင့်(၂) ခုရှိသော **مناسخة** အတွက်သာလျှင်ဖြစ် ပေသည်။ အကယ်၍ **مناسخة** သည် တတိယအဆင့်ရှိပါက တတိယ အဆင့်ကို ဒုတိယ **ميت** ၏ ကိုယ်စားပြုလုပ်ပေးရပေမည်။၎င်းနောက်ပထမနှစ်ဆင့်စလုံး ကို **ميت أوّل** ၏အဆင့်တွင်ထား၍အထက်ဖော်ပြပါပုံစံအတိုင်းပြုလုပ်ပေမည်။ အကယ်၍အဆင့်(၄)ခုရှိသော **مناسخة** ဖြစ်ပါက ပထမအဆင့်(၃)ခုစလုံးကို **ميت أوّل** ၎င်းနောက် စတုတ္ထအဆင့်ကို **ميت ثانى** ၎င်းနောက် အဆင့် (၅)

ခုရှိသော **مناسخة** ဖြစ်ပါက ပထမအဆင့် (၄)ခုစလုံးကို **أوّل ميت** ၎င်းနောက် အဆင့်(၅)ဆင့်ကို **ثانى ميت** ဟုသတ်မှတ်ပြီး ဥပဒေအတိုင်းပြုလုပ်ပေးရမည်။

**မှတ်ချက်** ☛ အကယ်၍ အဆင့်အဆင့် မြောက်များစွာရှိသော **مناسخة** ဖြစ်ပါက ပထမပိုင်း အဆင့်အားလုံး၏ **أوّل تصحيح** ပြုလုပ်ရပေမည်။ ထိုကဲ့သို့ ပြုလုပ်ပါက **مناسخة** ၏နည်းလမ်းသည်လွယ်ကူပေသည်။

ဗန္ဓဟ် အဗ်ဒုလ်မဂျီးဒ် ( ကာရှီဖ္ဖိ )၊ မြိတ်
ဖုန်းနံပတ် ☏ ၀၉၉၆၆၆၇၇၇၈၃

